# မြန်မာဆိုရိုးစကား



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပညာရေးဝန်ကြီးဌာန
မြန်မာစာအဖွဲ့ဦးစီးဌာန




# မြန်မာဆိုရိုးစကား

**ပထမနှိပ်ခြင်း**
၁၉၉၆–ခုနှစ်၊ အောက်တိုဘာလ
အုပ်ရေ–၂၀၀၀၀

**မြန်မာစာအဖွဲ့၏မူပိုင်ဖြစ်သည်။**

အမှတ်–၂၇၊ ပြည်လမ်း(၆–မိုင်ခွဲ)၊ ရန်ကုန်မြို့၊
မြန်မာစာအဖွဲ့ဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးစံလွင်
(ထုတ်ဝေခွင့်အမှတ်–၀၃၃၇၃)က ထုတ်ဝေသည်။

မြန်မာစာအဖွဲ့ဦးစီးဌာနတွင် စာစီ၍
တက္ကသိုလ်နယ်မြေ၊ တက္ကသိုလ်များပုံနှိပ်တိုက်တွင်
မန်နေဂျာ ဦးသာရင် (၀၂၃၈၄၊ ၀၂၅၃၂)က ပုံနှိပ်သည်။

**ပန်းချီ–ဦးစိုးလှိုင်**

# ထုတ်ဝေသူ၏အမှာ

ဘာသာစကားတိုင်းတွင်ပင် မိမိတို့ လူမျိုးဘာသာဓလေ့အလျောက် ယုံကြည်လက်ခံကြသည့်အချက်များ၊ မိမိတို့ လူ့ဘောင်လောကတွင် သဘာဝပတ်ဝန်းကျင်၊ လူမှုဆက်ဆံရေးကိစ္စတို့နှင့် စပ်လျဉ်းသော အမြင်များ၊ ဖြစ်လေ့ဖြစ်ထရှိသည်များ၊ မှတ်သားဖွယ်ရာများ၊ မိမိတို့ လူ့အဖွဲ့အစည်း၌ ရှောင်ရှားသင့်သည်ဟု လက်ခံထားကြသော အချက်များ စသည်တို့ကို ကွက်ကွက်ကွင်းကွင်း ပေါ်လွင်စေမည့် စကားရပ်များဖြင့် ပြောဆိုရေးသားလေ့ရှိကြပါသည်။ အဆိုပါ စကားရပ်များအနက် ခေတ်အဆက်ဆက် အသုံးတွင်ကျယ်ခဲ့ပြီး အမှန်တရားများသဖွယ် ကိုးကားပြောဆိုလေ့ရှိသည်တို့ကို စကားပုံ သို့မဟုတ် ဆိုရိုးဟု ခေါ်ကြပါသည်။ မြန်မာဘာသာစကားတွင် အဆိုပါ စကားရပ်နှစ်မျိုးအနက် မိမိဆိုလိုရင်းကို အနှိုင်းခံတစ်ရပ်နှင့် ပုံခိုင်းပြောဆိုကြသည့် စကားရပ်မျိုးကို စကားပုံဟု အမှတ်သညာထားကြ၍ ပုံခိုင်းမှုမပါလျှင်သော်လည်းကောင်း၊ ပုံခိုင်းမှုသက်သက်မက ဆိုလိုရင်းကိုပါ ဖော်ပြလျှင်သော်လည်းကောင်း ထိုစကားရပ်မျိုးကို ဆိုရိုးစကားဟူ၍ ခေါ်ကြပါသည်။

ဤသို့ စကားရပ်နှစ်မျိုး ရှိခဲ့သည့်အလျောက် မြန်မာစကားပုံကျမ်းကို ပြုစုဆဲမှာပင် ယခုမြန်မာဆိုရိုးစကားကျမ်း ဆက်လက်ပြုစုနိုင်ရေးကိုပါ ရည်မှန်း၍ ကြိုတင်ပြင်ဆင် ခဲ့ပါသည်။ ဤကျမ်းကို ပြုစုရာ၌လည်း ထုတ်ဝေပြီးဖြစ်သော မြန်မာစကားပုံကျမ်းအား ပြုပြင်မွမ်းမံ၍ ပြန်လည်ထုတ်ဝေနိုင်ရေးကိုပါ ဆောင်ရွက်ခဲ့ပါသည်။ တစ်ဖန် ဤစကားရပ် နှစ်မျိုး၏ ဆက်နွှယ်နေမှုအရ ဆိုလိုရင်းတစ်ရပ်ကို စကားပုံအသွင်ဖြင့်လည်းကောင်း၊ ဆိုရိုးစကားအဖြစ်လည်းကောင်း ပြောဆိုရေးသားနိုင်သည်ဖြစ်ရာ ဤသို့သော စကားရပ်များတွင် အပြန်အလှန်ရည်ညွှန်း၍ စာရှုသူတို့အတွက် ပိုမိုအသုံးဝင်စေရန် ဆောင်ရွက်ထားပါသည်။

ဤကျမ်းကိုပြုစုရာတွင် အခြေခံမူနှင့်အညီ စီမံချက်ချမှတ်သည်မှစ၍ စာမူကြမ်းများကို စိစစ်မွမ်းမံသည်အထိ ဆောင်ရွက်ခဲ့ကြသည့် မြန်မာစာအဖွဲ့ အဖွဲ့ဝင် ဆရာကြီး ဆရာမကြီးများဖြစ်ကြသော ဦးထင်ကြီး၊ ဒေါ်သန်းဆွေ၊ ဒေါ်အုန်းခင်၊ ဦးစိုးမောင်၊ ဦးထင်ဖတ်၊ ဒေါ်ရင်ရင်၊ ဦးဝင်းဖေ၊ ဒေါ်ကြန်၊ ဒေါ်မြင့်သန်း၊ ဦးမြင့်ကြည်နှင့် အကြံပေးအရာရှိ ဦးထွန်းတင့်၊ ကျွမ်းကျင်ပညာရှင် ဦးမြတ်ကျော်တို့အားလည်းကောင်း၊

မြန်မာစာအဖွဲ့အဖွဲ့ဝင်များ၏ ဦးဆောင်လမ်းညွှန်ချက်များနှင့်အညီ စာမူကြမ်းများကို တာဝန်ယူပြုစု ပေးခဲ့သော စာတည်းမှူး ဦးကံညွန့်၊ လက်ထောက်စာတည်း ဒေါ်ချိုချိုညွန့်၊ စာပြု ဒေါ်မြင့်ရီ တို့အားလည်းကောင်း၊ စာမူကြမ်းများ စတင်ပြုစုစဉ်မှ ဂျီအီးစီ(ပညာရေး)နှင့် ဆက်သွယ်ကာ ပုံနှိပ်ပြီးစီးသည် အထိ လိုအပ်သည်တို့ကို တာဝန်ယူဆောင်ရွက်ခဲ့သော ညွှန်ကြားရေးမှူး ဦးသိန်းမြင့်အားလည်းကောင်း၊ မြန်မာစကားပုံကျမ်းနှင့် ဤကျမ်းတွင် ပါရှိသော ကျမ်းကိုးအသုံးသာဓကများကို ဝိုင်းဝန်းရှာဖွေပေးကြသည့် ဤဌာနမှ လုပ်ဖော်ကိုင်ဖက် ဝန်ထမ်းများအားလည်းကောင်း ကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင် ပါသည်။

**(စံလွင်)**
**ညွှန်ကြားရေးမှူးချုပ်**
**မြန်မာစာအဖွဲ့ဦးစီးဌာန**

# မြန်မာဆိုရိုးစကားကြည့်နည်းအညွှန်း

၁။ လေ့လာလိုသည့် ဆိုရိုးစကားကို အလွယ်တကူ ရှာဖွေနိုင်ရန် ကျမ်းဦးပိုင်းတွင် မာတိကာစဉ် ရှိပါသည်။ မာတိကာတွင် ဆိုရိုးစကားများကို အက္ခရာစဉ်၍ ဖော်ပြထားပါသည်။ **ကဲ့ရဲ့ ခုနစ်ရက်၊ ချီးမွမ်း ခုနစ်ရက်**ဟူ၍လည်းကောင်း၊ **ချီးမွမ်း ခုနစ်ရက်၊ ကဲ့ရဲ့ ခုနစ်ရက်**ဟူ၍လည်းကောင်း ရှေ့နောက်ပြောင်း၍ သုံးနိုင်သော ဆိုရိုးစကားမျိုး၊ **စစ်ခံ တစ်ရာ၊ စစ်လာ တစ်ထောင်** နှင့် **မြို့စီးတစ်ရာ၊ မြို့လာ တစ်ထောင်။ ဆန္ဒရှိက နည်းလမ်းရ** နှင့် **လိုလျှင်ကြံဆ နည်းလမ်းရ** ဟူသော အနက်တူ၊ အသုံးကွဲဆိုရိုးစကားမျိုးကို အက္ခရာစဉ်အရ သက်ဆိုင်ရာနေရာများတွင် ဖော်ပြပါသည်။ ဆိုရိုးစကား၏အနက်ကိုမူ တစ်နေရာတည်း၌သာ ဖွင့်ဆိုပါသည်။

၂။ **ပညာရှာ ပမာ သူဖုန်းစား၊ ပညာရှိအမျက် ပြင်မထွက်၊ ဥစ္စာဖြို စားဖိုက** စသည့် အချို့သော ဆိုရိုးစကားများကို အနက်ဖွင့်ရာ၌ **ပညာရှာ ပမာ သူတောင်းစား၊ လူလိမ္မာ အမျက် ပြင်မထွက်၊ အိမ်ဖြို စားဖိုက** ဟူ၍ အဆိုရှိကြောင်းလည်း မှတ်ချက်ပေးထား ပါသည်။

၃။ **သားသမီးမကောင်း မိဘခေါင်း**ဟူသော စကားရပ်သည် ဆိုရိုးစကားအဖြစ်လည်းကောင်း၊ စကားပုံအဖြစ်လည်းကောင်း သုံးနိုင်သော စကားရပ်ဖြစ်ပါသည်။ ဤသို့ အသုံးနှစ်ထွေရှိသော စကားရပ်များကို ဤကျမ်း၌ "**သားသမီးမကောင်း မိဘခေါင်း**– စကားပုံလည်းရှု။"ဟု စကားပုံကျမ်းကို ရည်ညွှန်းဖော်ပြထားပါသည်။

၄။ ဤကျမ်းတွင် အသုံးပြုထားသည့် အနက်ဖွင့်ဆိုစနစ်၊ ဆိုရိုးစကားတစ်ခုနှင့် တစ်ခု ရည်ညွှန်းသည့်စနစ်၊ ဆိုရိုးစကားနှင့်စကားပုံ ရည်ညွှန်းသည့်စနစ်၊ ကျမ်းကိုး ဖော်ပြသည့်စနစ် စသည်တို့ကို သိရှိနိုင်ရန် ဆိုရိုးစကားအချို့ကို ထုတ်နုတ်၍ ကြည့်နည်း အညွှန်းတွင် ရှင်းလင်းဖော်ပြပါသည်။

၅။ ကိုးကားထားသော ကျမ်းနှင့်ပတ်သက်၍ အသေးစိတ် သိလိုပါက ကျမ်းနောက်ပိုင်း တွင် ပါရှိသော ကိုးကားကျမ်းများစာရင်းတွင် အက္ခရာစဉ်အလိုက် ဖော်ပြထားသော ကျမ်းအတိုမှတ်ဖြင့် ရှာဖွေကြည့်ရှုနိုင်ပါသည်။

၆။ ကျမ်းနောက်ဆုံးပိုင်း၌ အညွှန်းပါရှိပါသည်။ ဆိုရိုးစကားတစ်ခု၌ ပါဝင်သော ထင်ရှားသည့် ဝေါဟာရတို့ကို ဖော်ပြ၍လည်းကောင်း၊ ဆိုလိုရင်းအကြောင်းအရာကို ဖော်ပြ၍လည်းကောင်း အညွှန်းပြုထားပါသည်။ ဆိုရိုးစကား၏ အစ စကားလုံးကို မမှတ်မိပါက ဤအညွှန်းကို အသုံးပြု၍ ရှာဖွေကြည့်ရှုနိုင်ပါသည်။

# မြန်မာဆိုရိုးစကားကြည့်နည်းအညွှန်း

၃၈၇။ **ပညာရှိအမျက် ပြင်မထွက်**။ ။ ပညာရှိတို့သည် မိမိတို့ အမျက်ဒေါသကို ထိန်းချုပ်နိုင်ကြသည်။ (**လူလိမ္မာအမျက် ပြင်မထွက်**–ဟူ၍လည်း အဆိုရှိသည်။)

ဆိုရိုးစကားအမှတ်စဉ်

ဆိုရိုးစကား

အနက်အဓိပ္ပာယ်

အခြားနည်းအဆိုရှိကြောင်း ရှင်းလင်းချက်

၁၉၂။ **စစ်ခံ တစ်ရာ၊ စစ်လာ တစ်ထောင်**။ ။ ခံစစ်အင်အား တစ်ဆသည် တိုက်စစ်အင်အား ဆယ်ဆခန့်နှင့် ညီသည်။

**မြို့စီး တစ်ရာ၊ မြို့လာ တစ်ထောင်**–နှင့် အတူတူ။

ဆိုလိုရင်းတူညီသော အခြားဆိုရိုးစကား

၈၁၀။ **အကျည်းတန် မှန်ကြိုက်**။ ။ ......... ............... ........................................။

"ရုပ်ဆိုးသူက ရုပ်ချောသူထက်ပင် မှန်ကို မြတ်နိုးစိတ် ပိုသေးသည်၊ **အကျည်းတန် မှန်ကြိုက်** ဟူသောစကားက အထောက်အထား ပြုလျက် ရှိသည်။" [၁၃၁၅] စာဗိမာန်၊ ၂၊ ၃။ ၁၈။

အကိုး

ကျမ်းပြုသည့်နှစ် သက္ကရာဇ်၊ ကျမ်းအတိုမှတ်၊ အတွဲ၊ အမှတ်၊ စာမျက်နှာ

၁၅။ **ကဲ့ရဲ့ ခုနစ်ရက်၊ ချီးမွမ်း ခုနစ်ရက်**။ ။ **ချီးမွမ်း ခုနစ်ရက်၊ ကဲ့ရဲ့ ခုနစ်ရက်**–နှင့် အတူတူ။

ရှေ့နောက်ပြောင်း၍ အသုံးရှိကြောင်း ဖော်ပြချက်

၆၇၇။ **လာမည့်ဘေး ပြေးတွေ့**။ ။ ............... ..............................................။

**လာမည့်ဘေး အဝေးကရှောင်**–နှင့် နှိုင်းယှဉ်။

ဆန့်ကျင်ဘက် အနက် အဓိပ္ပာယ်ရှိသည့် အခြား ဆိုရိုးစကားတစ်ခုနှင့် နှိုင်းယှဉ်ရန်ဖော်ပြချက်

၃၈၃။ **ပညာရှာ ပမာ သူဖုန်းစား** ။ ။ .........
..................................................။
..............................................။

သူဖုန်းစား = သူတောင်းစား။

ဆိုရိုးစကားပါ အသိခက်သော ဝေါဟာရ အနက်ဖွင့် အောက်ခြေမှတ်ချက်

၇၉၂။ **သားသမီးမကောင်း မိဘခေါင်း** ။ ။ .........
..................................................။

**သားသမီးမကောင်း မိဘခေါင်း**–စကားပုံလည်း ရှိ။

စကားပုံအဖြစ်လည်း အသုံးရှိကြောင်း ဖော်ပြချက်

၉၅၂။ **အသိခေါက်ရက် အဝင်နက်**။ ။
...............
..........................။

**မသိခေါက်ရက် အဝင်နက်**– စကားပုံနှင့် နှိုင်းယှဉ်။

ဆန့်ကျင်ဘက် အနက်အဓိပ္ပာယ်ရှိသည့် စကားပုံနှင့်နှိုင်းယှဉ်ရန် ဖော်ပြချက်

၁၅။ **ပညာရဲရင့် ပွဲလယ်တင့်** ။ ။ ..................
...............................................။

"ပထမရွှယ်၊ ငယ်သော်ကတည့်၊ သိပ္ပခေါင် အား၊ တတ်မြောက်မြားမူ၊ တောသားရန်အောင်၊ ခြသေ့်ယောင်သို့၊ မရှောင်မညှာ၊ တင်းတင်းမာ၍၊ **ပညာရဲရင့်၊ ပွဲလယ်တင့်**လိမ့်။" [၈၈၅] ကိုး* ၂၇။

ကဗျာ၊ လင်္ကာပိုဒ်ရေ

၄၈၂။ **မကောင်းမှုဟူသည် ဆိတ်ကွယ်ရာမရှိ** ။ ။ ......
..................................................။

လွန်လေပြီးသောအခါ..........................
.................................... ထိမ်းမြား၏။

**ခုဒ္ဒကနိကာယ်၊ ၃၀၅–သီလဝီမံသနဇာတ်။**

ဆိုရိုးစကားဖြစ်လာသော ဇာတ်နိပါတ်၊ သမိုင်း၊ ပုံပြင် စသည် အကျဉ်းဖော်ပြချက်

မူရင်းကျမ်း၊ ဇာတ်အမှတ်၊ ဇာတ်အမည်

(က) သိရှိလိုသော ဆိုရိုးစကားတွင် "နွား"သတ္တဝါ ပါရှိသည် ဆိုပါက အက္ခရာစဉ်အတိုင်း ရှာဖွေသောအခါ "နွား"ဝေါဟာရပါဝင်သော ဆိုရိုးစကားအမှတ်စဉ် – ၁၈၂၊ ၃၆၂၊ ၃၆၃၊ ၃၉၈၊ ၅၀၆၊ ၇၀၄ တို့ကို တွေ့ရပါမည်။ မာတိကာတွင် –

၁၈၂။ **စေသည့်ကျွန်၊ ထွန်သည့်နွား**

၃၆၂။ **နွားကောင်းမကောင်း ချောင်းတက်ကျမှသိ**

၃၆၃။ **နွားရှိသသူ နွားကြောင့်ပူ၊ သားရှိသသူ သားကြောင့်ပူ**

၃၉၈။ **ပီလားတစ်ကောင် နွားတစ်ထောင်**

၅၀၆။ **မယားနှင့်နွား မသနားရ**

၇၀၄။ **လူမျိုးလျှင် ဒဏ်ရ၊ နွားမျိုးလျှင် ထွန်ရ** ဟူ၍ တွေ့ရပါမည်။

(ခ) ဆိုရိုးစကားတစ်ခု၏ ဆိုလိုရင်းအကြောင်းအရာကို မှီ၍လည်း အညွှန်းတွင် အက္ခရာစဉ်အလိုက် ရှာဖွေကြည့်ရှုနိုင်ပါသည်။ "လူ့သဘော"ဟူသော အကြောင်းအရာနှင့် ပတ်သက်သော ဆိုရိုးစကားများကို သိလိုပါလျှင် အညွှန်းအက္ခရာစဉ်တွင် ထိုအကြောင်းအရာနှင့် သက်ဆိုင်သော ဆိုရိုးစကားအမှတ်စဉ်– ၇၉၊ ၁၁၈၊ ၁၃၄၊ ၅၁၀ တို့ကို တွေ့ရပါမည်။ မာတိကာတွင်–

၇၉။ **ကွယ်မေ့၊ တွေ့ သေအောင်လွမ်း**

၁၁၈။ **ချစ်သော်ကား သကာ၊ မုန်းသော်ကား တမာ**

၁၃၄။ **ဂုဏာဝဍ္ဎေ ပသဿန္တိ ဇနာ**

၅၁၀။ **မရှိခိုးနိုး၊ မလှစုန်းယိုး** ဟူ၍ တွေ့ရပါမည်။

# မာတိကာ

| အမှတ်စဉ် | ဆိုရိုးစကား | | စာမျက်နှာ |
|---|---|---|---|

(က)

| အမှတ်စဉ် | ဆိုရိုးစကား | | စာမျက်နှာ |
|---|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၄၅။ | ကိုယ့်လူ သူ့ဘက်သား ... | ၁၄ |
| ၄၆။ | ကိုယ့်လင်ကလွဲ ဖွဲ့နှင့်ဆန်ကွဲ ... | ၁၅ |
| ၄၇။ | ကိုယ့်လိပ်ပြာ ကိုယ်ရှက် ... | ၁၅ |
| ၄၈။ | ကိုယ့်ဥမှ ဥထင် ... | ၁၅ |
| ၄၉။ | ကျားမရဲ တစ်၊ လူမရဲ ဟစ် ... | ၁၅ |
| ၅၀။ | ကျီးဖြူရောက်က စစ်မက်ထ ... | ၁၅ |
| ၅၁။ | ကျူးလာမိုးသက် ပျိုးကြဲရက် ... | ၁၆ |
| ၅၂။ | ကျေးဖူးရှိမှ ကျေးစွပ်သည် ... | ၁၆ |
| ၅၃။ | ကျောပူတာသာ ခံနိုင်တယ်၊ နားပူ မခံနိုင် ... | ၁၇ |
| ၅၄။ | ကျောက်နှင့်မြင်း၊ စိုးစဉ်းသိက ထမင်းဝ ... | ၁၇ |
| ၅၅။ | ကျပ် စိတ် မိုက်တွင်၊ လုံးကြီးတင် ... | ၁၇ |
| ၅၆။ | ကြာလေ ကောင်းလေ၊ ဟောင်းလေ သစ်လေ ... | ၁၇ |
| ၅၇။ | ကြားကလေသွေး ဝေးတယ်ထင် ... | ၁၈ |
| ၅၈။ | ကြီးလျှင်မှီ၊ ငယ်လျှင်ချီ ... | ၁၈ |
| ၅၉။ | ကြီးသူကို ရိုသေ၊ ရွယ်တူကို လေးစား၊ ငယ်သူကို သနား... | ၁၈ |
| ၆၀။ | ကြီးသည့်အမှု ငယ်စေ၊ ငယ်သည့်အမှု ပလပ်စေ ... | ၁၉ |
| ၆၁။ | ကြံသာ အစဉ်ချိုသည်၊ လူမှာ အစဉ်မချို ... | ၁၉ |
| ၆၂။ | ကြိုးကြာ ရေမသောက် ... | ၁၉ |
| ၆၃။ | ကြိုးစားက ဘုရားဖြစ် ... | ၂၀ |
| ၆၄။ | ကြက်ကောင်း ကြိုးမကွာ ... | ၂၀ |
| ၆၅။ | ကြက်ကောင်းလျှင် တစ်ဒယ်၊ ချီးကောင်းလျှင် တစ်လွယ်၊ ခါကောင်းလျှင် တစ်ထမ်း ... | ၂၀ |
| ၆၆။ | ကြက်မသွား မြားပါ၊ မိန်းမသွား စကားပါ ... | ၂၀ |
| ၆၇။ | ကြက်မှာ အရိုး၊ လူမှာ အမျိုး ... | ၂၁ |
| ၆၈။ | ကြက်ဉအယောင်၊ တိမ်တောင်သဖွယ်၊ မင်းရေးကျယ် ... | ၂၁ |
| ၆၉။ | ကြောက်တတ် ဝန်ကင်း ... | ၂၂ |

## (ခ)

| အမှတ်စဉ် | ဆိုရိုးစကား | | စာမျက်နှာ |
|---|---|---|---|

(ဂ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

(ဇ)

| အမှတ်စဉ် | ဆိုရိုးစကား | | စာမျက်နှာ |
|---|---|---|---|
| ၂၈၂။ | တောင်းဆိုးပလုံးဆိုးသာ ပစ်ရိုးရှိသည်၊ သားဆိုးသမီးဆိုး ပစ်ရိုးထုံးစံမရှိ | ... | ၈၆ |
| ၂၈၃။ | တောင်းမှာ အကွပ်၊ လူမှာ အဝတ် | ... | ၈၆ |
| ၂၈၄။ | တစ်ကောင်ကြွက် တစ်မျက်နှာ | ... | ၈၇ |
| ၂၈၅။ | တစ်ခါဆက်ဆံ ဆယ်ခါလန် | ... | ၈၇ |
| ၂၈၆။ | တစ်ခါမယုံ ဆယ်ခါမယုံ | ... | ၈၇ |
| ၂၈၇။ | တစ်ခါလာတော့ ရွှေညော့်သည်၊ နှစ်ခါလာတော့ ငွေညော့်သည် | ... | ၈၇ |
| ၂၈၈။ | တစ်ချိုကွယ် တစ်မယ်မေ့ | ... | ၈၈ |
| ၂၈၉။ | တစ်နေ့ဆယ်ကြိမ် တင်းမတိမ်၊ ပန်းထိမ်သူခိုးညစ် | ... | ၈၈ |
| ၂၉၀။ | တစ်မိပေါက် တစ်ယောက်ထွန်း | ... | ၈၈ |
| ၂၉၁။ | တစ်မူးရလို့ တစ်ပဲလျှူ၊ တို့ရှမ်းတောင်သူ တူနိုင်ရိုးလား | ... | ၈၈ |
| ၂၉၂။ | တစ်ယောက်ကစ တစ်ရာ | ... | ၈၉ |
| ၂၉၃။ | တစ်ယောက်ကောင်းက တစ်သောင်းပြို | ... | ၈၉ |
| ၂၉၄။ | တစ်ယောက်ကောင်းက၊ တစ်သောင်းဗိုလ်ခြေ၊ ညက်ညက်ကြေ | ... | ၈၉ |
| ၂၉၅။ | တစ်ယောက်ချမ်းသာ၊ ကိုယ်ဖို့ရှာ၊ သတ္တဝါအပေါင်း၊ ဆင်းရဲကြောင်း | ... | ၉၀ |
| ၂၉၆။ | တစ်ယောက်တစ်လက် ကျောင်းသားလက် | ... | ၉၀ |
| ၂၉၇။ | တစ်ရေးနိုးသော် အကြံပေါ်၊ ပေါ်သည့်အကြံ တစ်သိန်းတန် | ... | ၉၀ |
| ၂၉၈။ | တစ်ရွာသား တစ်အားငယ် | ... | ၉၁ |
| ၂၉၉။ | တစ်လုတ်စားဖူး သူ့ကျေးဇူး | ... | ၉၁ |
| ၃၀၀။ | တစ်သားမွေး တစ်သွေးလှ | ... | ၉၂ |
| ၃၀၁။ | တစ်သက်တစ်ခါ၊ စန်းဇာတာ၊ လူမှာထစမြဲ | ... | ၉၂ |
| ၃၀၂။ | တစ်သက်မှာ တစ်ခါသေရစမြဲ | ... | ၉၃ |

## (ထ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၃၄၃။ | နားတစ်ထိုင်၊ သွားတစ်တိုင် | ... ၁၀၆ |
| ၃၄၄။ | နီလာအလျား၊ မြကားအပြား၊ ပတ္တမြားအမောက်၊ စိန်မှာအစောက် | ... ၁၀၆ |
| ၃၄၅။ | နီးတကျက်ကျက် ဝေးတသက်သက် | ... ၁၀၆ |
| ၃၄၆။ | နီးလျက်နဲ့ဝေး | ... ၁၀၇ |
| ၃၄၇။ | နုမှာ ငါးရာ၊ ရင့်မှာ တစ်ကျိပ် | ... ၁၀၇ |
| ၃၄၈။ | နေခါသူ့နောက်၊ ဆိုခါသူ့အောက် | ... ၁၀၇ |
| ၃၄၉။ | နေဝင်မီးလက် စီးပွားတက် | ... ၁၀၈ |
| ၃၅၀။ | နေ့ကိုလို ဝါဆို၊ ညကိုလို ပြာသို | ... ၁၀၈ |
| ၃၅၁။ | နေ့ပူလို့ညချမ်း၊ တပေါင်းလ လသရမ်း | ... ၁၀၈ |
| ၃၅၂။ | နေ့ပြော နောက်ကြည့်၊ ညဥ့်ပြော အောက်ကြည့် | ... ၁၀၈ |
| ၃၅၃။ | နေ့မြင် ညပျောက် | ... ၁၀၉ |
| ၃၅၄။ | နံနက် ငှက်ပျော၊ ညဥ့် သဘော် | ... ၁၀၉ |
| ၃၅၅။ | နောက်ပစ်ညသတ် သမာနတော | ... ၁၀၉ |
| ၃၅၆။ | နောက်ပစ်ယသတ် သမာနတော | ... ၁၁၀ |
| ၃၅၇။ | နိုင်လျှင်ကား ရန်၊ ရှုံး ပူပန် | ... ၁၁၀ |
| ၃၅၈။ | နည်းအမျှ များအဝ | ... ၁၁၀ |
| ၃၅၉။ | နတ်တော်ရောက်ငြား၊ မိုးသားမငြိမ်၊ ဆင်ရာတိမ် | ... ၁၁၀ |
| ၃၆၀။ | နတ္ထိ ဝိဇ္ဇာ သမံ မိတ္တံ | ... ၁၁၁ |
| ၃၆၁။ | နတ်ရေးတဲ့ဖူးစာ လူပြင်ရာမခံ | ... ၁၁၁ |
| ၃၆၂။ | နွားကောင်းမကောင်း ချောင်းတက်ကျမှသိ | ... ၁၁၁ |
| ၃၆၃။ | နွားရှိသသူ နွားကြောင့်ပူ၊ သားရှိသသူ သားကြောင့်ပူ | ... ၁၁၁ |
| ၃၆၄။ | နွေ ထနောင်း၊ ဆောင်း မန်ကျည်း | ... ၁၁၂ |
| ၃၆၅။ | နွယ်မြက်သစ်ပင် ဆေးဖက်ဝင် | ... ၁၁၂ |
| ၃၆၆။ | နှလုံးကောင်း ဝန်ကြီး | ... ၁၁၂ |
| ၃၆၇။ | နဲ့ချောလျှင် တယော | ... ၁၁၃ |

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၃၉၁။ | ပညာ သမာ၊ အာဘာ နတ္ထိ | ... ၁၂၀ |
| ၃၉၂။ | ပညတ်သွားရာ ဓာတ်သက်ပါ | ... ၁၂၀ |
| ၃၉၃။ | ပဝါပါး ကြက်သားထုပ်တော့ စွန်းတတ်တယ်၊ တစ်ရွာသား ရည်းစားလုပ်တော့ လွမ်းရတတ်တယ် | ... ၁၂၁ |
| ၃၉၄။ | ပါပလေးချက် နေမှထွက်၊ သောမလေးချက် လမှထွက် | ... ၁၂၁ |
| ၃၉၅။ | ပါပသို့ ရမတိ မနော | ... ၁၂၁ |
| ၃၉၆။ | ပါးစပ်ပါ ရွာရောက် | ... ၁၂၂ |
| ၃၉၇။ | ပိယေဟိ ဝိပ္ပယောဂေါ ဒုက္ခော | ... ၁၂၂ |
| ၃၉၈။ | ပီလားတစ်ကောင် နွားတစ်ထောင် | ... ၁၂၂ |
| ၃၉၉။ | ပုဂံရာဇဝင် တုတ်ထမ်းပြောရ | ... ၁၂၃ |
| ၄၀၀။ | ပုစွန်ရေနား၊ တွင်းကိုထား၊ မိုးများ ခေါင်ကြောင်းပြ | ... ၁၂၃ |
| ၄၀၁။ | ပုစွန် ရေဝေး၊ ပွေးကား တွင်းထွက် | ... ၁၂၃ |
| ၄၀၂။ | ပုစွန်အကွေး၊ ငါးအနွေး | ... ၁၂၃ |
| ၄၀၃။ | ပုထုဇ္ဇနော ဉမ္မတ္တကော | ... ၁၂၄ |
| ၄၀၄။ | ပူစပ်ပူစပ် တင်ပါးချပ် | ... ၁၂၄ |
| ၄၀၅။ | ပေ တစ်သီး၊ ကျိုး တစ်သား | ... ၁၂၄ |
| ၄၀၆။ | ပေးကားပေး၏ မရ၊ ကျွေးကားကျွေး၏ မဝ | ... ၁၂၄ |
| ၄၀၇။ | ပေးကမ်းခြင်းသာ အောင်မြင်ရာ | ... ၁၂၅ |
| ၄၀၈။ | ပုဂ္ဂိုလ်ခင်မှ တရားမင် | ... ၁၂၅ |
| ၄၀၉။ | ပင်အိုနွဲ့နောင်း သီးမကောင်း၊ နွားအိုနောက်ကျသား မကြီးထွား | ... ၁၂၅ |
| ၄၁၀။ | ပင့်ရစ်မနိုင် ရခိုင်နှင့်ညှို | ... ၁၂၆ |
| ၄၁၁။ | ပေါင်မှာ စာနက်၊ ချက်မှာ စာဖြူ၊ မလုပ်ဘဲနှင့် ကြွယ်ဝသူ | ... ၁၂၆ |
| ၄၁၂။ | ပစ္စည်းသခင်္ခါရ၊ လူသင်္ခါရ | ... ၁၂၆ |
| ၄၁၃။ | ပါဠိ တစ်ချက် အနက် ဆယ်ထွေ | ... ၁၂၆ |

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

## (ဘ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

## (မ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|



## (ယ)

## (လ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၆၈၈။ | လူတစ်လူ အပူတစ်မျိုး | ... ၂၀၉ |
| ၆၈၉။ | လူတန် ကံချ | ... ၂၀၉ |
| ၆၉၀။ | လူပု စိတ်တို၊ ခွေးပု ရန်လို | ... ၂၀၉ |
| ၆၉၁။ | လူပုံက ပတ်ကလားနဲ့ နတ်စကားထွက် | ... ၂၁၀ |
| ၆၉၂။ | လူပျင်းလို့လ တစ်ခဏ | ... ၂၁၀ |
| ၆၉၃။ | လူပြော မသန်၊ လူသန် မပြော | ... ၂၁၀ |
| ၆၉၄။ | လူဖြောင့် စိတ်တို၊ လူချို စိတ်ကောက် | ... ၂၁၀ |
| ၆၉၅။ | လူမစွမ်းကို ချီးမွမ်းလေလေ ဖျင်းလေလေ | ... ၂၁၁ |
| ၆၉၆။ | လူမတန် ကံချ | ... ၂၁၁ |
| ၆၉၇။ | လူမပြောဘူး ဝိုင်းပြော သိလိမ့်မည် | ... ၂၁၁ |
| ၆၉၈။ | လူမရောက် မြင်းမိုရ်တောင်၊ ခွေးမရောက် အိမ်မိုးခေါင် | ... ၂၁၂ |
| ၆၉၉။ | လူမသေ ငွေမရှား | ... ၂၁၂ |
| ၇၀၀။ | လူမိုက်ဆွဲ၍ လူမဲပါသည် | ... ၂၁၂ |
| ၇၀၁။ | လူမိုက်တစ်သောင်း ကဲ့ရဲ့ရှောင်း၊ လူကောင်းတစ်ယောက် ချီးမွမ်းပျောက် | ... ၂၁၂ |
| ၇၀၂။ | လူမိုက်နှင့်ငွေ အတူမနေ | ... ၂၁၃ |
| ၇၀၃။ | လူမင်းဘုန်းကြီး နတ်မင်းမနေနိုင် | ... ၂၁၃ |
| ၇၀၄။ | လူမြူးလျှင် ဒဏ်ရ၊ နွားမြူးလျှင် ထွန်ရ | ... ၂၁၃ |
| ၇၀၅။ | လူမှာ အကျင့်၊ ပန်းမှာ အပွင့် | ... ၂၁၃ |
| ၇၀၆။ | လူယုံသတ် သေတတ် | ... ၂၁၃ |
| ၇၀၇။ | လူရိုးဆိုတာ သင်္ချိုင်းမှာသာရှိ | ... ၂၁၄ |
| ၇၀၈။ | လူလိုမှ နတ်လို၊ နတ်လိုမှ ဂြိုဟ်မ | ... ၂၁၄ |
| ၇၀၉။ | လူလိမ္မာသား ယဉ်ပါး၊ လူမိုက်သား ရမ်းကား | ... ၂၁၄ |
| ၇၁၀။ | လူလုတော့ ညှင်းခ | ... ၂၁၅ |
| ၇၁၁။ | လူသာငယ် လူငယ်ဟုတ်ကြီး၊ လူသာကြီး လူကြီးပေါ်သော | ... ၂၁၅ |

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၇၃၅။ | လင်မယားချစ်တော့ ရန်ဖြစ် | ... ၂၂၁ |
| ၇၃၆။ | လင်မရှိ မရေရာ၊ လင်မကောင်းက မထောင်းတာ | ... ၂၂၁ |
| ၇၃၇။ | လုဇ္ဇတိ ပလုဇ္ဇတီတိ လောကော | ... ၂၂၂ |
| ၇၃၈။ | လုပ်ရဲလျှင် ခံရဲရမည် | ... ၂၂၂ |
| ၇၃၉။ | လမ်းမသိ ခွေးနောက်လိုက် | ... ၂၂၂ |
| ၇၄၀။ | လမ်းရိုးဟောင်းတွင် ဆင့်ကာထွင် | ... ၂၂၂ |
| ၇၄၁။ | လမ်းရိုးဟောင်းတွင် ဆင့်ကာထွင်၊ သုတ်သင်ကာမျှ လွယ်ကာရ | ... ၂၂၂ |
| ၇၄၂။ | လိမ္မာမှ အိမ်ပါသည် | ... ၂၂၃ |
| ၇၄၃။ | လျှင်သော်ကား မင်း၊ နှောင်းသော် ချင်း | ... ၂၂၃ |
| ၇၄၄။ | လွှမ်းစရာပေါ်လျှင် နာစရာနှင့်ဖျောက် | ... ၂၂၃ |
| ၇၄၅။ | လွယ်လွန်းက ရှုံး၊ ထည်လွန်းက မုန်း | ... ၂၂၄ |
| ၇၄၆။ | လှတစ်မျက်နှာ၊ ယဉ်တစ်ကိုယ်လုံး | ... ၂၂၄ |
| ၇၄၇။ | လှေကားသုံးထစ်ဆင်းလျှင် လူပျိုဖြစ်သည် | ... ၂၂၄ |
| ၇၄၈။ | လှေမျော လှေနှင့်လိုက်၊ ငွေမျော ငွေနှင့်လိုက် | ... ၂၂၄ |
| ၇၄၉။ | လှေအစုန် ရေရှက်တိုက်၊ လှေသမားများ အကြည်ဆိုက် | ... ၂၂၅ |
| ၇၅၀။ | လှေအဆင်း၊ မြင်းအတက် | ... ၂၂၅ |
| ၇၅၁။ | လှေဦးစို စို၊ လှေဦးခြောက် ခြောက် | ... ၂၂၅ |
| ၇၅၂။ | လုံ့ထမ်းလာတာကို မြင်ရ၊ ကံထမ်းလာတာကို မမြင်ရ | ... ၂၂၅ |
| ၇၅၃။ | လှိုင်းကြီး လှေအောက် | ... ၂၂၆ |
| ၇၅၄။ | လှည်းကားအနှင်၊ လှေလျှင်တက်ပဲ့၊ မြင်းဇက်ဖွဲ့ | ... ၂၂၆ |
| ၇၅၅။ | လှည်းဝင်ရိုးသံ တည်ညံ့၊ ပုဂံဘုရားပေါင်း | ... ၂၂၆ |

## (ဝ)

| | | |
|---|---|---|
| ၇၅၆။ | ဝစီဘေဒ ထိတိုင်းရှ | ... ၂၂၇ |
| ၇၅၇။ | ဝစေလို အချိုထမင်းနောက် | ... ၂၂၈ |

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|



## (သ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
| --- | --- | --- |

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|

## (ဟ)



## (အ)

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၈၉၁။ | အစကောင်းမှ အနှောင်းသေချာ | ... ၂၆၅ |
| ၈၉၂။ | အစဆုံး ရည်းစား သားတစ်ဖျာပြည့်တော့ မမေ့ | ... ၂၆၅ |
| ၈၉၃။ | အစရှိ အနှောင်နှောင် | ... ၂၆၆ |
| ၈၉၄။ | အစာကို ကောက်တိုင်းရလျှင် စလုတ်မဆံ့၊ နှမ်းလျှင်ကို လုပ်တိုင်းရလျှင် ထည့်စရာပုတ်မဆံ့ | ... ၂၆၆ |
| ၈၉၅။ | အစာလည်း ဆေး၊ ဆေးလည်း အစာ | ... ၂၆၆ |
| ၈၉၆။ | အစားပုပ်သော် အလုပ်ကြာ | ... ၂၆၇ |
| ၈၉၇။ | အစားမတော် တစ်လုတ်၊ အသွားမတော် တစ်လှမ်း | ... ၂၆၇ |
| ၈၉၈။ | အစားသာ အကုန်စား၊ စကားကို အကုန်မပြောနှင့် | ... ၂၆၇ |
| ၈၉၉။ | အစိန္တိတမ္ဘိ ဘဝတိ၊ စိန္တိတမ္ဘိ ဝိနဿတိ | ... ၂၆၇ |
| ၉၀၀။ | အဆီစားလို့ အသားမဖြစ် | ... ၂၆၈ |
| ၉၀၁။ | အဆင်မတတ်လျှင် ဆန်းလျက်နှင့်မလှ၊ အငင်မတတ်လျှင် ပန်းလျက်နှင့်မရ | ... ၂၆၈ |
| ၉၀၂။ | အဆင်းတန် စကားတန်ထွက် | ... ၂၆၈ |
| ၉၀၃။ | အဆင်းလှဆန်း လူ့ပေါက်ပန်း | ... ၂၆၈ |
| ၉၀၄။ | အတုမြင် အတတ်သင် | ... ၂၆၉ |
| ၉၀၅။ | အတွင်းမီးထ ပြင်မီးပ | ... ၂၆၉ |
| ၉၀၆။ | အထားလွယ် သူကြွယ်လက်ဆော့ | ... ၂၆၉ |
| ၉၀၇။ | အထက်မှာ ကောင်းမှုလုံ၊ အောက်မှာ ရွှေတိဂုံ | ... ၂၇၀ |
| ၉၀၈။ | အထက်မှာပေ၊ အောက်မှာရွှေ၊ အလယ်ဝဲသိုက်၊ မျက်ဖြူဆိုက် | ... ၂၇၀ |
| ၉၀၉။ | အထိန်းမရှိသည့်ချည်ခင် အမျှင်မျှင် | ... ၂၇၀ |
| ၉၁၀။ | အနာခံမှ အသာစံရမည် | ... ၂၇၁ |
| ၉၁၁။ | အနာနှင့်ဆေး ကိုက်အောင်ပေး | ... ၂၇၁ |
| ၉၁၂။ | အနာပဆုပ် ကျောလုံးပုပ် | ... ၂၇၁ |
| ၉၁၃။ | အနာမသိ ဆေးမရှိ | ... ၂၇၁ |

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
| --- | --- | --- |
| ၉၁၄။ | အနက်မသန် အဘိဓာန် | ... ၂၇၁ |
| ၉၁၅။ | အပင်ကြီး အသီးသေးသည့်ညောင်၊ အမြင်နီး ခရီးဝေးသည့်တောင် | ... ၂၇၂ |
| ၉၁၆။ | အပျိုလို မနေမိလို့ ကိုယ်ရိတယ်လေး | ... ၂၇၂ |
| ၉၁၇။ | အပြော ကိုဖူးညို၊ အဆို ကိုပု | ... ၂၇၂ |
| ၉၁၈။ | အပြောမတတ် အပတ်မပြေ | ... ၂၇၃ |
| ၉၁၉။ | အပွေးမြင် အပင်သိ၊ အသွေးမြင် အသွင်သိ | ... ၂၇၃ |
| ၉၂၀။ | အဖိုးနည်း ဝန်ပါ | ... ၂၇၃ |
| ၉၂၁။ | အဖန်ငါးရာ ငါးကမ္ဘာ | ... ၂၇၄ |
| ၉၂၂။ | အဖျော်ဆယ်ခု ထောပတ်ပြု | ... ၂၇၄ |
| ၉၂၃။ | အမိယုတ် နှုတ်ကြမ်း၊ အဖယုတ် လက်ကြမ်း | ... ၂၇၄ |
| ၉၂၄။ | အမေ့ကိုပြော တံကောက်ကြော | ... ၂၇၅ |
| ၉၂၅။ | အမျိုးထိ မချိအောင်နာ | ... ၂၇၅ |
| ၉၂၆။ | အမျိုးနည်းလျှင် မကျယ်နှင့်၊ အဖိုးနည်းလျှင် မဝယ်နှင့် | ... ၂၇၅ |
| ၉၂၇။ | အမြင်နိမိတ်၊ အတိတ်လက်ဆောင်၊ အသံတဘောင် | ... ၂၇၅ |
| ၉၂၈။ | အမှားကြာ အမှန်ဖြစ် | ... ၂၇၆ |
| ၉၂၉။ | အမှားတွေ့က အမှန်ရ | ... ၂၇၆ |
| ၉၃၀။ | အရာကောင်းလျှင် တစ်ချက်၊ အနေကောင်းလျှင် တစ်သက် | ... ၂၇၆ |
| ၉၃၁။ | အရှုးဆယ်ခွန်းပြော တစ်ခွန်းမှန် | ... ၂၇၆ |
| ၉၃၂။ | အရေးကြီး သွေးနီး | ... ၂၇၇ |
| ၉၃၃။ | အရောဝင် အရှိအသေတန် | ... ၂၇၇ |
| ၉၃၄။ | အရပ်ကောင်းမှ အလောင်းလှ | ... ၂၇၇ |
| ၉၃၅။ | အရှေ့မှာ ညောင်၊ တောင်ကား ငှက်ပျော၊ မြောက်ကြော လက်ပံ၊ နောက်ယံ သဖန်း၊ ဒန်းနှင့်သပြေ၊ မစိုက်လေနှင့် | ... ၂၇၈ |

**အမှတ်စဉ်** | **ဆိုရိုးစကား** | **စာမျက်နှာ**

| အမှတ်စဉ် | ဆိုရိုးစကား | စာမျက်နှာ |
|---|---|---|
| ၁၀၀၅။ | အိမ်နောက်ဖေး စျေးဆိုင်တည် ... | ၂၉၉ |
| ၁၀၀၆။ | အိမ်မိုးချင်းဆက်၊ ရပ်ကွက်တူနေ၊ သူသေငါပို့ ... | ၃၀၀ |
| ၁၀၀၇။ | အိမ်ရှိလျှင် မာလကာပင်ရှိရမည် ... | ၃၀၀ |
| ၁၀၀၈။ | အိမ်သာလို့ ညှော်လာ ... | ၃၀၀ |
| ၁၀၀၉။ | အိမ်အိုတော့ ကျားကန်၊ လူအိုတော့ ပန်းပန် ... | ၃၀၀ |
| ၁၀၁၀။ | အုံတုံ ပဋ္ဌ၊ ကွဲကော် ဆ၊ ဥသျှစ် ဧကေး၊ တင်လဲ ဒွေး ... | ၃၀၁ |

# က

၁။ **ကစားသမား စကားမတည်**။ ။ လောင်းကစားသမားသည် စကားမတည်တတ်ပေ။

"**ကစားသမား စကားမတည်။**" [၁၃၅၁] ကားပုံချုပ်။ ၅။

၂။ **ကဆုန်၊ နယုန် ဆွေ့ဆွေ့ခုန်**။ ။ ကဆုန်လနှင့် နယုန်လ၌ ဆွေ့ဆွေ့ခုန် လောက်အောင် နေပူရှိန် အလွန်ပြင်းလှသည်။

"မေလ၏နေသည် ချစ်ချစ်တောက် ပူနေသည်။ **ကဆုန်၊ နယုန် ဆွေ့ဆွေ့ခုန်** ဆိုသော မြန်မာဆိုရိုးနှင့်လည်း ညီလှသည်။" [၁၃၃၅] ငွေတာရီ၊ ၁၅၅။ ၁၅၃။

"နွေဥတုတွင် ပါဝင်သောကြောင့် **ကဆုန်၊ နယုန် ဆွေ့ဆွေ့ခုန်** ဟု စာချိုး ရသည့်အထိ နေအပူ ပြင်းလှပေသည်။" [၁၃၄၆] ယဉ်ပဒေသာ။ ၄၅။

၃။ **ကဆုန်အတွင်း၊ မြေသင်းပျံ့ပျံ့၊ မိုးနံ့နံ့**။ ။ မိုးသည် ကဆုန်လတွင် မြေသင်းနံ့ ထွက်ရုံလောက် ဖွဲဖွဲ ရွာသည်။

**"ကဆုန်အတွင်း၊ မြေသင်းပျံ့ပျံ့၊ မိုးနံ့နံ့။"** [၁၁၉၅] မုံမှတ်။ ၅၈။

**"ကဆုန်အတွင်း၊ မြေသင်းပျံ့ပျံ့၊ မိုးနံ့နံ့**။ ။ကဆုန်လတွင် မြေငွေ့ ပြန်အောင် မိုးရွာပုံ ဆော့သည် ဆိုလိုသည်။" [၁၂၈၅] ချုပ်ပုံ၊ ဒု။ ၁၃၅။

၄။ **ကတညုတ ကတဝေဒီ။** ။ မိမိအား ကျေးဇူးပြုဖူးသူကို သူ၏ကျေးဇူးကို သိသည့်အလျောက် ကျေးဇူးတုံ့ပြန်ဆပ်သည်။ (ကတညုတ–သူ ပြု ဖူးသော ကျေးဇူးကို သိခြင်း၊ ကတဝေဒီ – ကျေးဇူးတုံ့ပြန်ဆပ်ခြင်း။)

> “ကျေးဇူးတရားလေးပါးရှိတဲ့အခါမှာ ထိုကျေးဇူးတို့ကို သိတတ်သူရယ်၊ သိပြီးတဲ့အလျောက် ကျေးဇူးတုံ့ပြန် ပြန်လုပ်ပေးဆပ်သူရယ်လို့ နှစ်မျိုးနှစ်စား ခွဲခြား၍ ဘုရားကိုယ်တော်မြတ် ဟောကြားတော်မူတာ အင်္ဂုတ္တိုရ်မှာ မင်း ဖတ်ရသားပဲ၊ **ကတညုတ ကတဝေဒီ**ဆိုတဲ့ စကားဟာ အဲဒီနှစ်မျိုးနှစ်စားကို ခွဲခြားပြီး ပြတာပဲ၊” [၁၃၄၅–ခနဲ့] ဓမ္မကထာ။ ၃၄၀။

> “နောင်တော်ကြီးစကားအတိုင်း ကျုပ်လည်း ထပ်တူပြောရမည့် **ကတညုတ ကတဝေဒီ**စကားများပေပဲ၊ ကျုပ်လည်း ကျုပ်ရဲ့ ငယ်ဆရာတွေကို အမြဲသတိရပြီး ကျေးဇူးတရားအောက်မေ့ဆင်ခြင်လျက်ပါ၊” [၁၃၅၈] ဓမ္မရုပ်စုံ၊ ၂။ ၃၄။

၅။ **ကရုဏာ လဟုနာဖြစ်။** ။ သနားသဖြင့် ဆောင်ရွက်သော အမှုသည် မလေးနက်ဘဲ အချည်းနှီး ဖြစ်သွားသည်။

> “ညီမက စိုးရိမ်လို့ ပြောတာပါ မကြီးအေမီရယ်၊ **ကရုဏာ**ကို **လဟုနာ ဖြစ်**နေရပြန်ပါပြီ။” [၁၃၁၂] ပန်းရောင်။ ၁၈၀။

၆။ **ကရင်သားမွေး ခေါင်းမဆေးနှင့်၊ အိုးစည်တီး ပြီးအောင်ဆေး။** ။ ခေါင်းမလျှော်သင့်သော နေ့များမှာ တနင်္လာ၊ ဗုဒ္ဓဟူး၊ သောကြာ၊ ကြာသပတေး ဖြစ်သည်။ ခေါင်းလျှော်သင့်သော နေ့များမှာ တနင်္ဂနွေ၊ အင်္ဂါ၊ စနေ ဖြစ်သည်။ (က= တနင်္လာ၊ ရင်= ဗုဒ္ဓဟူး၊ သား= သောကြာ၊ မွေး=ကြာသပတေး၊ အိုး= တနင်္ဂနွေ၊ စည်= အင်္ဂါ၊ တီး= စနေ။) **(ကရင်သားမွေး ခေါင်းမဆေးနှင့်၊ စံထွန်းအေး ခေါင်းဆေးတော့။ အောင်စည်တီးခေါ် နေ့သုံးဖော် လျှော်လေဦးခေါင်းသာ၊ ကုလားမသား နေ့လေးပါး ခေါင်းကားမလျှော်ရာ–** ဟူ၍လည်း အဆိုများ ရှိသည်။)

> **“ကရင်သားမွေး ခေါင်းမဆေးနှင့်၊ အိုးစည်တီး ပြီးအောင်ဆေး။”** [၁၂၂၅–ခနဲ့] လောကီညွှန့်။၅၅။

> **“အောင်စည်တီးခေါ် နေ့သုံးဖော် လျှော်လေ ဦးခေါင်းသာ၊ ကုလားမ သား နေ့လေးပါး ခေါင်းကားမလျှော်ရာ။”** [၁၂၉၆–ခနဲ့ ] သုတသန်။ ၆၆။

**"ကရင်သားမွေး ခေါင်းမဆေးနှင့်၊ စံထွန်းအေး ခေါင်းဆေးတော့။"**

[၁၃၃၆] လောကီစုံ။ ၁၁။

၇။ **ကလေးပါးစပ်မှာ အစား၊ ဈေးပါးစပ်မှာ စကား** ။ ။ ကလေးပါးစပ်သည် အစားမျိုးစုံကို စားတတ်သည်။ ဈေးသည် ပါးစပ်သည် စကားမျိုးစုံကို ပြောတတ်သည်။

**"ကလေးပါးစပ်မှာ အစား၊ ဈေးပါးစပ်မှာ စကား**ဆိုတာလို ဈေးချိုထဲက စပြီး စကားတွေ ပွပွကုန်တာပါပဲ။" [၁၂၈၀] ပညာအလင်း၊ ၂၊ ၁။ ၇၅။

၈။ **ကလေးရှက်တော့ ငို၊ လူကြီးရှက်တော့ ရယ်** ။ ။ ကလေးရှက်သည့်အခါ ငိုတတ်သည်။ လူကြီးရှက်သည့်အခါ အရှက်ပြေ ရယ်တတ်သည်။ **(လူငယ်ရှက်က ငို၊ လူကြီးရှက်က ရယ်–** ဟူ၍လည်း အဆိုရှိသည်။)

"လူတို့ရွာတွင်၊ နှိုင်းရာဆိုဖွယ်၊ **လူငယ်ရှက်က၊ ငို**ကုန်ကြ၏၊ ထိုမှတစ်သီး၊ **လူကြီးရှက်**မူ၊ **ရယ်**သည်ဟူရှင့်၊" [၁၁၈၉] ကုသ * ၃၄၅။

**"ကလေးရှက်တော့ ငို၊ လူကြီးရှက်တော့ ရယ်** ဆိုသကဲ့သို့ ဆာထွန်းအေး မှာလည်း အများတကာတွေရယ်ကြသည့်အထဲတွင် ၎င်းပါဝင်၍ ဟက်ဟက် ပက်ပက် ရယ်လေတော့၏။" မြန်မာ့လင်းတင်းစာ။ (၂–၆–၄၁)

၉။ **ကာလံ ဒေသံ အင်္ဂံ့ ဓနံ** ။ ။ ပစ္စည်းတန်ဖိုးကို အချိန်အခါ၊ နေရာဒေသလိုက်၍ ဆုံးဖြတ်ရသကဲ့သို့ အချို့သော လူမှုကိစ္စများကို အချိန်အခါ၊ နေရာဒေသအလိုက် ဆောင်ရွက်ကြရသည်။ (ကာလံ–အချိန်အခါ၊ ဒေသံ–နေရာဒေသ၊ အင်္ဂံ့–တန်ဖိုး၊ ဓနံ– ပစ္စည်းဥစ္စာ။)

**"ကာလံဒေသံ၊ အင်္ဂံ့ဓန၊** ရှေးကထုံးမှီး၊ ယူသီးဝတ္ထု၊" [၁၁၅၅] ဥတိန် * ၁၃၆။

"နည်းအဖြာဖြာ၊ အရာရာကို၊ ပညာဝေဖန်၍၊ **ကာလံ ဒေသံ၊ အင်္ဂံ့ ဓနံ၊** ပရိဘောဂံ၊ ဤငါးတန်တွင်၊ ဆုတ်ရန်သည်တစ်မျိုး၊ တိုးတန်သည်အနီး၊ အသီးသီးပင်၊" [၁၁၉၄] ဇော * ၁၄၂။

"ဖြစ်ချိန်ဖြစ်ရာ၊ တန်ဖိုးပါနှင့်၊ ဥစ္စာဟောင်းသစ်၊ စိစစ်ထုံးစံ၊ ကုံလောက် ငံအောင်၊ **ကာလံ ဒေသ၊ အင်္ဂံ့ ဓန၊** နည်းပြစဉ်လာ၊ မဟာပဒေသလေးပါး၊ သတိထားလော့၊" [၁၂၆၆] မဃ * ၃၉၅။

၁၀။ **ကုရာ နတ္ထိ ဆေးမရှိ** ။ ။ ကိလေသာကာမတည်းဟူသော ကိုယ်တွင်းနာကို ကုသနိုင်သော ဆေးဝါးမရှိ။

"ကာမရောဂါ၊ ကိုယ်တွင်းနာကား၊ **ကုရာနတ္ထိ၊ ဆေးမရှိ**ဘူး၊ မိမိပညာ၊ သတိသာလျှင်၊ မဟာသြသဓ၊ ဆေးမည်စွရှင့်၊" [၁၂၆၆] မဃ * ၂၃၃။

၁၁။ **ကုလား အချုပ်၊ တရုတ် အခြယ်** ။ ။ ကုလားလူမျိုးသည် အဝတ်အထည် ချုပ်ရာတွင် နိုင်နင်းကျွမ်းကျင်၍ တရုတ်လူမျိုးကမူ ပန်းချီ ဆေးခြယ်ရာတွင် နိုင်နင်း ကျွမ်းကျင်သည်။

**ကုလား အချုပ်၊ တရုတ် အထည်**–နှင့် နှိုင်းယှဉ်။

"**ကုလား အချုပ်၊ တရုတ် အခြယ်** ဟူ၍ စကား ရှိခဲ့ဖူးပါသည်။ အင်္ကျီ ချုပ်ရာတွင် ကုလားက နာမည်ကြီး၍ တရုတ်က ပန်းချီ ဆေးခြယ်ရာတွင် ပိုမို နိုင်နင်းသည်ဟု အဓိပ္ပာယ်ရပါသည်။" [၁၃၂၅] ယဉ်ကျေးမှု၊ ၄၊ ၂။ ၁၄၆။

၁၂။ **ကုလား အချုပ်၊ တရုတ် အထည်** ။ ။ အဝတ်အထည်ကို ဆေးခိုင်အောင် ချုပ်ဆေးဖြင့် ချုပ်ရာတွင် ကုလားလူမျိုးက ကျွမ်းကျင်သည်။ ပိုးဖဲစသည့် အထည် အလိပ်များ ရက်လုပ်ရာတွင် တရုတ်လူမျိုးက ကျွမ်းကျင်သည်။

**ကုလား အချုပ်၊ တရုတ် အခြယ်**–နှင့် နှိုင်းယှဉ်။

"တသ္မာ **ကုလား အချုပ်၊ တရုတ် အထည်**တိ ဝေါဟာရော ပဒေသော၊ သမ္ဘဝတိ...၊" [၁၂၁၄] ပေါ်ဦး၊ ၁၇၃။

၁၃။ **ကုသိုလ်ရေစက် အဆက်မကွာ** ။ ။ ရှေးရှေးဘဝက အတူတကွ ပြုခဲ့ကြဖူး သော ကုသိုလ်ကြောင့် ယခုဘဝတွင် ပြန်လည်ဆုံစည်းကြရသည်။

"စောထွတ်ဖျားနှင့် ထိပ်စုကြီးတို့ကို သားသမီးလို ထင်မှတ်ပြီး မေတ္တာစာတ် သက်ဝင်ခြင်းမှာ ရှေးရှေးအခါက ကုသိုလ်ရေစက်ကြောင့်လို့ ဆိုရမှာပေါ့၊ **ကုသိုလ်ရေစက် အဆက်မကွာ**ဆိုတဲ့ စကားတစ်ခုရှိတယ်၊" [၁၂၉၄] ဒဂုန်၊ ၁၄၄၊ ၁၂။ ၂၅၈။

၁၄။ **ကုသိုလ်လည်းရ ဝမ်းလည်းဝ** ။ ။ **၁၊** အချို့သော အသက်မွေးဝမ်းကျောင်း လုပ်ငန်းများသည် ဝမ်းဝရုံမျှသာမက စိတ်ထားတတ်လျှင် ကုသိုလ်လည်း ရသည်။

**ကုသိုလ်လည်းရ ဝမ်းလည်းဝ**–စကားပုံလည်းရှု။

**"ကုသိုလ်လည်းရ ဝမ်းလည်းဝ**ဆိုသကဲ့သို့ ဆေးဆရာဝန်လုပ်ရန် သန္နိဋ္ဌာန် ချပြီးလျှင်...။" [၁၂၈၈] ဒဂုန်၊ ၆၊ ၇၁။ ၆၅။

"လယ်လုပ်ရတာကို သားက ဂုဏ်ငယ်တယ်ထင်လို့လား၊ စားနပ်ရိက္ခာတွေ ကြွယ်ဝလာအောင် တစ်နိုင်ငံဝန်ထမ်းရတာဟာ သားတို့အတွက် **ကုသိုလ်လည်းရ ဝမ်းလည်းဝ**တဲ့ လုပ်ငန်းမဟုတ်ဘူးလား။" [၁၃၄၆] ရှုမဝ၊ ၃၈၊ ၄၄၅။ ၅၂။

**၂။** အချို့သော ကုသိုလ်ကောင်းမှု လုပ်ငန်းများသည် ကုသိုလ်ရရုံမျှသာမက ဝမ်းလည်း ဝသည်။

**"ကုသိုလ်လည်းရ ဝမ်းလည်းဝ**...ရဟန်းခံရှင်ပြုလိုက်ကြသည်။" [၁၂၉၀] ဖလဲ။ ၁၀၁။

၁၅။ **ကဲ့ရဲ့ ခုနစ်ရက်၊ ချီးမွမ်း ခုနစ်ရက်**။ ။ **ချီးမွမ်း ခုနစ်ရက်၊ ကဲ့ရဲ့ ခုနစ်ရက်**–နှင့်အတူတူ။

**"ကဲ့ရဲ့ ခုနစ်ရက်၊ ချီးမွမ်း ခုနစ်ရက်** ဆိုသော စကားအရ...ခုနစ်ရက်စေ့သဖြင့် မေ့ပျောက်တော့မည့်ဆဲဆဲ ရှိနေကြသည်တွင်...။" [၁၃၂၇] စေတစ်လုံး။ ၂၈၄။

၁၆။ **ကောဓော အတ္ထံ နဇာနာတိ**။ ။ ဒေါသအမျက်ထွက်ခြင်းသည် အကျိုးအကြောင်း အဆိုးအကောင်းကို မသိနိုင်။ (ကောဓော–အမျက်သည်၊ အတ္ထံ–အကျိုးကို၊ နဇာနာတိ–မသိ။)

"အမိန့်တော်သံ နာခံလျက်ပါဘုရား။ ကျွန်တော်မျိုး တင်ပါရစေ၊ **ကောဓော အတ္ထံ နဇာနာတိ**မို့ ပြန်လည်စဉ်းစားတော်မူပါဘုရား။" [၁၂၉၇] ငွေ။ ၈၈။

၁၇။ **ကံတူ အကျိုးပေး**။ ။ **၁၊** မိမိပြုလုပ်ခဲ့သော ကောင်းမှု မကောင်းမှုနှင့် တူညီသော ကောင်းကျိုးဆိုးကျိုးကို ရရှိသည်။

**သဒိသံ ပါကံ ဓနေတိ**–နှင့် အတူတူ။

"ကျေးဇူးတော်ရှင် လယ်တီဆရာတော်ဘုရားကြီး လျှောက်ထားသည်မှာ **ကံတူ အကျိုးပေး**ပေါ့ဘုရား၊ ကံပစ်ချရာ ခံရစမြဲပေါ့၊ ကံဘုံကံနယ်ထဲက မလွတ်ကြသေးဘဲကိုး၊ ဆရာတော်မှာတော့ ကုသိုလ်ကံကောင်းပါပေရဲ့၊ တခြားမသွားရဘဲနှင့် ကိုယ့်မြို့ကိုယ့်ရွာမှာ နေ၍ စာတတ်ရတယ်၊ တပည့်တော်မှာတော့

ကိုယ့်မြို့ကိုယ့်ရွာက ခွာပြီး မန္တလေးမြို့တက်၍ အပင်ပန်းဒုက္ခခံပြီး စာသင်ယူရပါတယ်။" [၁၂၈၈] လယ်တီ။ ၁၅၈။

၂။ ပြုခဲ့သော ကောင်းမှုမကောင်းမှုကံချင်း တူကြသဖြင့် ကောင်းကျိုးဆိုးကျိုး ခံစားရာ၌ တူကြသည်။

"မင်းနှင့် ငါသည် **ကံတူ အကျိုးပေး** ဆိုဘိသကဲ့သို့၊" [၁၂၆၇] စကား၊ ပ။ ၆၃။

"အင်း...**ကံတူ အကျိုးပေး**ဆိုတာလို ဖြစ်နေပါကလား မအုံးရယ်၊ ကျုပ်မှာလည်း မအုံးလို အပူသည်ပဲ၊" [၁၂၈၀-ခန့်] ပိဋကတ္တု။ ၂၆၈။

"ခင်ဗျားနှင့် ကျွန်တော် **ကံတူ အကျိုးပေး**ထင်ပါရဲ့၊ ကျွန်တော့်မှာလည်း စပါးတွေက သောက်သောက်လဲ ရှုံးတာပဲ၊" [၁၂၉၇] ကျိုးဆောင်။ ၁၂၆။

၁၈။ **ကံထမ်းလာတာ မမြင်ရ၊ လှံထမ်းလာတာသာ မြင်ရ။** ။ **လှံထမ်းလာတာကို မြင်ရ၊ ကံထမ်းလာတာကို မမြင်ရ**-နှင့် အတူတူ။

"နောင်ကြီးရဲ့၊ **ကံထမ်းလာတာကို မမြင်ရ**ဘူး၊ **လှံထမ်းလာတာကိုသာ မြင်ရ**သတဲ့၊ ကံတရားဆိုတာ အဆန်းကြယ်သားကလားဗျာ၊" [၁၂၈၄] လောက သာရ၊ ၂၊ ၂၁။ ၅၉။

**"ကံထမ်းလာတာ မမြင်ရ၊ လှံထမ်းလာတာ မြင်ရ**တယ်ဆိုတဲ့ စကားပုံဟာ တယ်မှန်ပါကလားနော်၊" [၁၂၉၁] ကဝိမှန်။ ၅၈။

၁၉။ **ကံမရှိ ဉာဏ်ရှိတိုင်းမွဲ** ။ ။ ကုသိုလ်ကံ မရှိလျှင် ချမ်းသာလို၍ ဉာဏ်ရှိသမျှ လုပ်ဆောင်လေ ဆင်းရဲလေ ဖြစ်သည်။

**ကံမရှိ ဉာဏ်ရှိတိုင်းမွဲ**-စကားပုံလည်းရှိ။

"ကံရှိမှ ချမ်းသာမည်၊ **ကံမရှိ ဉာဏ်ရှိတိုင်းမွဲ**မည် စသည်ဖြင့် အလုပ် မလုပ်ဘဲ ကံကိုသာ ယိုးမယ်ဖွဲ့လျက် ပြောကြသူတို့၏စကားကို နားနှစ်ဖက်သို့ ဝင်ရောက်ခြင်း မရှိစေဘဲ၊" [၁၂၈၅] မောင်စွန့်။ ၅၇။

"**ကံမရှိ**တော့ **ဉာဏ်ရှိတိုင်းမွဲ** ဆိုသလို ကုသိုလ်မှိန်တဲ့အခါတော့ ဘာကိုပဲ လုပ်လုပ် အကျိုးမပေးတာမို့၊" [၁၂၉၂] ဒဂုန်၊ ၁၀၊ ၁၂၀။ ၃၅။

၂၀။ **ကံမဲ့သူ ရှာမှီး၊ ကံကြီးသူ ခံစား ။** ။ ကုသိုလ်ကံ မရှိသူသည် ပစ္စည်းဥစ္စာကို ရှာဖွေစုဆောင်း၍ ရပါသော်လည်း မိမိဥစ္စာကို မခံစားရဘဲရှိတတ်သည်။ ကုသိုလ်ကံ ကြီးမားသူမှာကား ထိုသူ စုဆောင်းထားခဲ့သော စည်းစိမ်ဥစ္စာကို အဆင်သင့် ခံစား ရပေသည်။ **(ကံနည်းသူ စုဆောင်း၊ ကံကောင်းသူ ခံစား–** ဟူ၍လည်း အဆိုရှိသည်။)

"**ကံမဲ့သူရှာမှီး၊ ကံကြီးသူခံစား** ဆိုတာလို သည့်ပစ္စည်း အသိန်းနှစ်ဆယ် ကျော်ကို ကံကော်တဲ့ ဇာတာရှင်ကလေးတစ်ယောက်ဖြင့် ချမ်းသာလောက်အောင် အမွေခံရလိမ့်ဦးမယ် ထင်တယ်။" [၁၂၇၉] ပညာအလင်း၊ ၁၊ ၁။ ၉၂။

"**ကံနည်းသူစုဆောင်း၊ ကံကောင်းသူခံစား**ဆိုတာလို ငါ့သား ခံစား ထိုက်ဖို့ အခွင့်ရှိရင်လည်း ခံစားရလိမ့်မယ်။ " [၁၂၈၉] ခင်လေးတို၊ ၄။ ၁၀၈။

၂၁။ **ကံရှိမှ တတ်၊ ဉာဏ်ရှိမှ မြတ် ။** ။ ကုသိုလ်ကံရှိသူမှ တတ်စွမ်းနိုင်သည်။ ပညာ ဉာဏ်ရှိသူမှ မြင့်မြတ်သည်။

**ကံရှိမှ မြတ်၊ ဉာဏ်ရှိမှ တတ်**–နှင့် နှိုင်းယှဉ်။

"**ကံရှိမှ တတ်**သည်၊ **ဉာဏ်ရှိမှမြတ်**သည်။"[၁၁၅၂–ခန့်]ကျည်း။ ၇။

၂၂။ **ကံရှိမှ မြတ်၊ ဉာဏ်ရှိမှ တတ် ။** ။ ရှေးဘုန်းရှေးကံရှိသူမှ မြင့်မြတ်သည်။ ပညာဉာဏ်ရှိသူမှ တတ်စွမ်းနိုင်သည်။

**ကံရှိမှ တတ်၊ ဉာဏ်ရှိမှ မြတ်**–နှင့် နှိုင်းယှဉ်။

"သတ္တဝါဟူဘိ၊ များအချိကား၊ **ကံရှိမှမြတ်၊** ခဲကတ်ရေးရာ၊ အလိမ္မာကား၊ ပညာမြင်သိ၊ **ဉာဏ်ရှိမှတတ်၊** မှန်ဆတ်ဆတ်တည့်၊" [၁၂၆၆] မဃ * ၂၂၉။

၂၃။ **ကံသာလျှင် အမိ၊ ကံသာလျှင် အဖ ။** ။ ကံသည် မိဘသဖွယ် အားကိုးအားထားရာ ဖြစ်သည်။

"သတ္တဝါတို့၊ **ကံသာဖမိ၊** ကံမရှိက၊ ဉာဏ်ချိတိုင်းမွဲ၊ ကြံတိုင်းလွဲ၏။" [၁၂၆၆] မဃ * ၂၅၁။

"လူ့ပြည်မှာ လူဖြစ်လာလျှင် **ကံသာလျှင် အမိ၊ ကံသာလျှင် အဖ** ကံစီမံရာကို ခံရမှာပဲ၊" [၁၃၂၀] စာဗိမာန်၊ ၇၊ ၃။ ၂၇။

၂၄။ **ကောက်နှောင်း ဆင်စာ၊ သားနှောင်း ကျွန်ရာ။** ။ နောက်ကျမှ ပေါက်ရသော ကောက်ပင်သည် ကြီးထွားခွင့်မရသဖြင့် ဆင်စာကျွေးရန်သာ အသုံးဝင်သည်။ မိဘ အရွယ်လွန်မှ ရသော သားသည်လည်း ကြီးပွားခွင့်မရသဖြင့် အောက်ကျနောက်ကျ နေရသည်။

**"ကောက်နှောင်း ဆင်စာ၊ သားနှောင်း ကျွန်ရာ၊"** [၁၂၅၇] ပေါဒီ။ ၄၉၈။

"**ကောက်နှောင်း ဆင်စာ၊ သားနှောင်း ကျွန်ရာ၊**" [၁၂၇၅] ဆောင်းပါး ချုပ်။ ၁၁၃။

၂၅။ **ကိစ္စပြားမြောင် လူတို့ဘောင်** ။ ။ လူ့ဘောင်လောကသည် ကိစ္စအမျိုးမျိုး များပြားလှ၏။

**ဃရာဝါသော ဗဟုကိစ္စော–** နှင့် အတူတူ။

"ဃရာဝါသ၊ သမ္ဗာဓဟု၊ **ကိစ္စပြားမြောင်၊ လူတို့ဘောင်**၌၊ အိမ်ထောင် သက်မွေး၊ ခြနှယ်မြွေးသား၊" [၈၆၅] လောသာ * ၁၆။

၂၆။ **ကုဥ္စရော ဒန္တေသု ဟညတေ**။ ။ ဆင်သည် သူ့မှာ ရှိသော အစွယ်ကြောင့် အသတ်ခံရသည်။ (ကုဥ္စရော–ဆင်ကို၊ ဒန္တေသု–အစွယ်တို့ကြောင့်၊ ဟညတေ–သတ် အပ်၏။) (**နာဂေါ ဒန္တေသု ဟညတေ**–ဟူ၍လည်း အဆိုရှိသည်။)

"**ကုဥ္စရော**–ဆင်ကို၊ **ဒန္တေသု**–အစွယ်တို့ကြောင့်၊ **ဟညတေ**– သတ်အပ်၏။" [၁၀၀၅–ခန့်] သဒ္ဒါကြီး။ ၅၅၃။

"ဆင်သည် အစွယ်ကြောင့် အသတ်ခံရ၏။ **နာဂေါ ဒန္တေသု ဟညတေ** ဟု ဆိုရိုးပြုခဲ့ကြ၏။" [ ၁၃၁၇] ပုံပြဆေး၊ ဆ၊ ပ။ ၁၀၇။

၂၇။ **ကုန်ရှုံးလျှင် တစ်ခေါက်၊ လင်ကုန်ရှုံးလျှင် တစ်သက်လုံးမှောက်**။ ။ကုန်သွယ်၍ ကုန်ရှုံးလျှင် တစ်ခေါက်သာ ရှုံးသည်၊ တစ်ကြိမ်ကြိမ်တွင် အမြတ်ပြန်ရနိုင်သေးသည်။ အိမ်ထောင်ဖက်အရွေးမှားလျှင်ကား တစ်သက်လုံး ဒုက္ခတွေ့ရတတ်သည်။

"မိန်းမတို့ဆိုသည်မှာ **ကုန်ရှုံးလျှင် တစ်ခေါက်၊ လင်ကုန်ရှုံးက တစ်သက် လုံးမှောက်**တတ်ပါတယ်။ သို့ဖြစ်၍ အလွန် စိုးရိမ်လှပါတယ်။" [၁၂၆၈] နော၊ ပ။ ၄၈။

"ထို့ကြောင့် **ကုန်ရှုံးလျှင် တစ်ခေါက်၊ လင်ကုန်ရှုံးလျှင် တစ်သက်လုံး မှောက်** သည်ဟူ၍ ပညာရှိများ ဆိုရိုးစကားရှိပါသည်။" [၁၂၇၉] စံသိုက်။ ၉၄။

"အိုးအိမ်တည်ထောင်မှုအရေးကိစ္စတွင် **ကုန်ရှုံးလျှင် တစ်ခေါက်၊ လင်ကုန် ရှုံးလျှင် တစ်သက်လုံးမှောက်** ဆိုသည့်စကားအတိုင်း ယောကျ်ားများထက် မိန်းမ များမှာ ဆင်ခြင်တုံဉာဏ်သွားနှင့် ပိုမို၍ စဉ်းစားပြီး ပြုသင့်လေ၏။" [၁၂၉၅] ဒဂုန်၊ ၁၊ ၁၅၀။ ၃၂၇။

၂၈။ **ကုန်းနေ ကိုးကုဋေ၊ ရေနေ ဆယ်ကုဋေ ။** ။ ကုန်းနေသတ္တဝါလည်း များစွာ ရှိသည်။ ရေနေသတ္တဝါသည် ထို့ထက်ပင် များသေးသည်။

"ဒသကောဋိ ဒကဇာစ– **ရေနေ ဆယ်ကုဋေ**သော သတ္တဝါအပေါင်းတို့ သည်လည်းကောင်း၊ ထလဇာ နဝကောဋိယော–**ကုန်းနေ ကိုးကုဋေ**သော သတ္တဝါအပေါင်းတို့သည်လည်းကောင်း... ဒီဃာယုကာ– အသက်ရှည်ကြကုန် သည်၊ ဘဝန္တု–ဖြစ်ပါစေကုန်သတည်း။" [၁၃၁၂] သီရိမင်။ ဘ။

"ကျွန်ုပ်တို့ မြန်မာစကားတွင် **ကုန်းနေ ကိုးကုဋေ၊ ရေနေ ဆယ်ကုဋေ** ဆိုသည့်အတိုင်း အပြောကျယ်လှစွာသော သမုဒ္ဒရာအဏ္ဏဝါအတွင်း၌ ကျွန်ုပ် တို့ မမြင်ဖူး မကြားဖူးသော ထူးဆန်းသော သတ္တဝါကြီးများ ရှိနေ၏။"[၁၃၂၁] သွေးသောက်၊ ၁၅၈။ ၁၀၂။

၂၉။ **ကုန်းမှာ မြွေငန်း၊ ရေမှာ ရေတန်း။** ။ ကုန်းပေါ်တွင် ငန်းမြွေသည် အဆိပ် ပြင်းသော သတ္တဝါ ဖြစ်သကဲ့သို့ ရေထဲတွင် ရေတန်း ခေါ် ငါးဖန်ခွက်သည် အဆိပ် ပြင်းသော သတ္တဝါ ဖြစ်သည်။

"**ကုန်းမှာ မြွေငန်း၊ ရေမှာ ရေတန်း**ဟူသတည်း။ ဆိုလိုရင်းမှာ ကုန်းပေါ်တွင် မြွေငန်းသည် လူကို ကောင်းကောင်းကြီး အန္တရာယ် ပေးနိုင်သကဲ့သို့ ပင်လယ် ရေပြင်တွင်လည်း ရေတန်းသည် လူကိုကောင်းကောင်းကြီး အန္တရာယ် ပေးနိုင် သောကြောင့် ဖြစ်ပါသည်။" [၁၃၃၂] မြဝတီ၊ ၁၈၊ ၁၁။ ၁၄၁။

၃၀။ **ကုန်းမှာ မြွေပွေး၊ ရေမှာ ငါးရွေး။** ။ ကုန်းသတ္တဝါတို့တွင် မြွေပွေးသည် အဆိပ် ပြင်းသော သတ္တဝါတစ်မျိုး ဖြစ်သည်။ ရေသတ္တဝါတို့တွင် ငါးရွေးသည် အဆိပ်ပြင်းသော သတ္တဝါတစ်မျိုး ဖြစ်သည်။

"ငါးရွေးစသော ငါးတို့သည် **ကုန်းမှာ မြွေပွေး၊ ရေမှာ ငါးရွေး** ဟူသော စကားပုံအရ ကြီးလာသည်နှင့်အမျှ မြေတွင် အောင်းကြကုန်၏။ (ကျောက်ဆောင် တွင် အောင်းကြကုန်၏။) လွန်စွာလည်း ကြီးကြကုန်၏။ အဆိပ်လည်း လွန်စွာ ပြင်းကုန်၏။" [၁၃၁၇] ပုံပြဆေး၊ မ၊ ပ။ ၁၃။

၃၁။ **ကမ္ဘာကြေသော်လည်း ဥဒါန်းမကျေ**။ ။ ၁၊ ကမ္ဘာကြီးပျက်သုဉ်းသွားသည့် တိုင်အောင် လူတစ်ဦးတစ်ယောက်၏ ကောင်းသော လုပ်ဆောင်ချက်နှင့် ကောင်းသော ဂုဏ်သတင်းတို့မှာကား ပျောက်ကွယ်မသွားဘဲ ဥဒါန်းတွင်ကျန်ရစ်ခဲ့ပေသည်။

"မိမိကိုယ်သော်ကား အသက်တစ်ရာနေ၍ မတော်မမှန် ကျင့်သဖြင့် ဆုံးခဲ့အံ့၊ မိမိကိုယ်ခန္ဓာကို မှီ၍ ဖြစ်သော မကောင်းသော စကားတို့သည်ကား အဆက်ဆက် သားမြေးမြစ်တိုင်အောင် ပြောပရစ်စရာ ဖြစ်၏။ **ကမ္ဘာကြေ သော်**ငြား**လည်း ဥဒါန်းမကျေ** ဖြစ်သည်။" [၁၁၄၃] ဏိပုံ။ ၄၈။

"ဗီလာစက်ဝန်း၊ ကမ္ဘာကျွန်းလည်း၊ ဥဒါန်းမကျေ၊ ထွန်းရစ်စေလိမ့်၊ **ကမ္ဘာကြေလည်း၊ မကျေဥဒါန်း၊**" [၁၂၁၀] ဥမ္မာ * ၄၂။

၂၊ တစ်ဦးဦးအပေါ် တစ်သက်လုံး အခဲမကျေနိုင် ဖြစ်သည်။

"**ကမ္ဘာကြေသော်လည်း ဥဒါန်းမကျေ** ဖြစ်လောက်ဖွယ်ရာပင်၊ အသက်နှင့် ကိုယ် မြဲနေသမျှကာလပတ်လုံး နာကြည်းခြင်းကား ဖျောက်ဖျက်၍ ရရှာတော့မည် မဟုတ်ကြောင်းကိုတွေးမိပါသည်။"[၁၃၀၂]ဒဂုန်၊၂၀၊၂၃၉။ ၁၉၉။

"ဗိုလ်နဂါး၊ ဗိုလ်နဂါး၊ **ကမ္ဘာသာကြေမယ် ဥဒါန်းမကျေ** ဘူးဟော့၊ လက်စားမချေရသမျှ ဘယ်တော့မှ မအေးဘူးမှတ်၊" [၁၃၁၉] နဂါး။ ၆၄။

၃၂။ **ကမ္ဘံ သတ္တေ ဝိဘဇ္ဇတိ** ။ ။ သတ္တဝါတို့သည် ကံစီမံသည့်အတိုင်း ဖြစ်ကြရ၏။ (ကမ္ဘံ–ကံသည်၊ သတ္တေ–သတ္တဝါတို့ကို၊ ဝိဘဇ္ဇတိ–မတူ ကွဲပြားအောင် ခွဲခြားပေး၏။)

"အိပ်မက်တွေ ထူးထူးခြားခြားနှင့် ဘာတွေများ ဖြစ်ချင်လို့လည်းမသိ ပါဘူးနော်၊ ဟယ် တတ်နိုင်ပါဘူး၊ **ကမ္ဘံ သတ္တေ ဝိဘဇ္ဇတိ** တဲ့၊ ကံသာလျှင်အဖ၊ ကံသာလျှင်အမိ၊" [၁၃၂၅] ယဉ်ကျေးမှု၊ ၄၊ ၁။ ၈၄။

၃၃။ **ကိုယ်ကသွေး ဘေးကိုပြု၊ တောကဆေး ဘေးကိုကု**။ ။ ကိုယ်တွင်းမှ သွေးသည် ဖောက်ပြန်ကာ ကိုယ့်ကိုယ်ကိုပင် ပြန်လည်၍ ဘေးဖြစ်စေတတ်သည်။ ပြင်ပဖြစ်

သော တောအရပ်မှ ဆေးဖက်ဝင်အရွက်၊ အမြစ်စသည်တို့ကမူ ကိုယ်၌ ဖြစ်သော ရောဂါကို ကုစားနိုင်သည်။

"**တောထဲက ဆေးလည်း သေဘေးကို တားပေသည်။ ကိုယ်ထဲက သွေးလည်း သေဘေးကို ပွားစေသည်။**" [၁၂၂၅–ခန့်] ပုည။ ၅၆။

"မကောင်းလျှင်မူ၊ **ကိုယ်တွင်ဖြစ်ပွား၊ သွေးနှင့်သားလည်း၊ ကြီးမား စင်စစ်၊ ရန်သူဖြစ်၏၊ အမြစ်အဥ၊ ဆေးအစုကား၊** တစ်ခုသော်မျှ၊ ကိုယ်ကမပါ၊ **တောကလာလျက်၊ ချမ်းသာဆောင်တတ်၊ ကျိုးရှိမြတ်၏။**" [၁၂၆၆] မဃ * ၂၂၀။

"**ကိုယ်ကသွေး ဘေးကိုပြု၊ တောကဆေး ဘေးကိုကု**ဟု ဆိုရိုးစကား ရှိခဲ့ပါသည်။...သွေးဖောက်ပြန်သောကြောင့် ဘေးရောဂါ ကပ်ရောက်ရပါသည်။ ကပ်ရောက်လာသော ထိုဘေးရောဂါကို တောမှ ထွက်သော အမြစ်၊ အရွက်၊ အခေါက်၊ ဓာတ်သတ္တု စသည်တို့ဖြင့် ပျောက်ကင်းအောင် ကုသနိုင်ပါသည်။" [၁၃၄၅] မြန်ဆေးပင်။ ၁။

၃၄။ **ကိုယ်ကောင်းလျှင် ကိုယ်စံ၊ ကိုယ်မကောင်းလျှင် ကိုယ်ခံ**။ ။ ကိုယ်ကောင်းလျှင် ကိုယ်သာ ကောင်းကျိုး စံစားရမည်။ ကိုယ်ဆိုးလျှင် ကိုယ်သာ ဆိုးကျိုး ခံစားရမည်။

"**ကိုယ်ကောင်းလျှင် ကိုယ်စံ၊ ကိုယ်မကောင်းလျှင် ကိုယ်ခံ** ဆိုတာကို များစွာ သဘောကျဖို့ ကောင်းပါတယ်။" [၁၂၉၆] မဥ္ဇရီ၊ ဒု။ ၁၇၀။

၃၅။ **ကိုယ်ချစ်ကို မရှာနှင့် သူချစ်ကို ရှာ**။ ။ အိမ်ထောင်ဖက်အဖြစ် ရွေးချယ်ရာတွင် မိမိက ချစ်ရသူကို မရွေးပါနှင့်၊ မိမိကို ချစ်နေသူကိုသာ ရွေးချယ်ပါ။

"**ကိုယ်ချစ်ကို မရှာနှင့် သူချစ်ကိုရှာ** ဆိုတဲ့ ဩဝါဒကို ရှေးက လူကြီး သူမတွေက မိန်းမတို့ကို ပေးတာပဲ ဖြစ်ရမယ်။" [၁၃၅၂] ချစ်စိတ်။ ၅၆။

၃၆။ **ကိုယ်နှင့်နှိုင်း မရှိုင်း**။ ။ **၁**၊ အရာရာတွင် ကိုယ်ချင်းစာတရား လက်ကိုင်ထား နိုင်လျှင် အကောင်းဆုံး ဖြစ်သည်။

"ငါကဲ့သို့ အစမှအဆုံးတိုင် အလုံးစုံ ပိုင်ပိုင်နိုင်နိုင်ကြီး သိချင်ရှာမယ်လို့ **ကိုယ်နှင့်နှိုင်း မရှိုင်း** ဆိုတဲ့ ရှေးလူကြီးများစကားအတိုင်းပေါ့ရှင်၊" [၁၂၉၆] ဒဂုန်၊ ၁၄၊ ၁၆၇။ ၃၅၆။

၂။ သူတစ်ပါးကို ကိုယ်နှင့် နှိုင်းစာ၍ ရှုမြင်တတ်ကြသည်။

"လူဆိုတာမျိုးဟာ **ကိုယ်နှင့်နှိုင်း မရှိင်း**ဘူးတဲ့၊ ရှင့်သဘောလိုချည်း မမှတ်နဲ့၊ လူချင်းတူပေမဲ့ အသက်ရှူချင်း ကွဲသေးတယ်။" [၁၂ဂဂ] မောင်ပုံ။ ၁ဂ၆။

"ဒီလို ဝိပဿနာယောင်ယောင်လုပ်နေပြီး တကုပ်ကုပ်နေတာဟာ တစ်စုံ တစ်ခု စိတ်ရှုပ်စရာရှိတဲ့လူတွေ နေမှာပဲထင်ပါရဲ့။ **ကိုယ်နှင့်နှိုင်း မရှိင်း**ဆိုသလို တွေးရတာပဲ။" [၁၃၀၀] ဒဂုန်၊ ၂၁၃။ ၂ဂ၁။

၃ဂ။ **ကိုယ်မချို၊ အမိသော်လည်း၊ သားတော်ခဲ**။ ။ မိခင်သည် အတိဒုက္ခ ရောက် နေချိန်တွင် မိမိသားသမီးကိုပင် မငဲ့မထောက်နိုင် ဖြစ်သည်။

**ကိုယ်မချို၊ အမိသော်လည်း၊ သားတော်ခဲ**–စကားပုံလည်းရှု။

"**ကိုယ်မချိုက၊ အမိသော်လည်း၊ သားတော်ခဲ** ဆိုသောအတိုင်း မိမိ၏သား ကို ကျွေးမွေးပြုစုနိုင်ခြင်းငှာ မစွမ်း၍ နေရပ်နှင့် ကွာဝေးသော ရွာတစ်ရွာသို့ သွားရောက် အပ်လိုက်ရလေ၏။" [၁၂ဂ၅] စံပယ်။ ၁၄၃။

"ယခုကာလ ဗရုတ်ဗရက်ထဲမှာ ပြေးလားလွှားလားနှင့် ကလေးများကို သားသည်အမေတွေတောင် မခင်တွယ်နိုင်ကြဘူး။ **ကိုယ်မချို၊ အမိသော်လည်း၊ သားတော်ခဲ**သတဲ့။" [၁၂၈၂] ရွှေပြည်၊ ပ။ ၄၃။

၃၈။ **ကိုယ်ရေးကြုံက သက်လုံကောင်းခဲ** ။ ။ ကိုယ်နှင့်ဖြစ်စေ၊ ကိုယ့်သွေးကိုယ့်သား နှင့်ဖြစ်စေ ပတ်သက်သည့် အရေးကြီးကိစ္စ ကြုံလာပါက ခေါင်းအေးအေးနှင့် ဆောင်ရွက် နိုင်ခဲသည်။

"ဆရာသည် သူတကာအရေးကို ရှေ့ပြေးရှေ့ဆောင် အောင်မြင်အောင် စီမံတတ်သော်လည်း **ကိုယ်ရေးကြုံက သက်လုံကောင်းခဲ** သည် ဟူဘိသကဲ့သို့ အကြံအစည် ဉာဏ်ရည်ဉာဏ်အား မသွားနိုင်အောင်ပင် ရှိတော့သည်။" [၁၂ဂ၉] ဓမ္မစေတီ။ ဂ၁။

"ရှေးပညာရှိကြီးများက **ကိုယ်ရေးကြုံလျှင် သက်လုံကောင်းခဲ**သည် ဟု ဆိုလေ့ရှိ၏။" [၁၂၉ဂ] တိုးတက်ရေး။ ၉၆။

၃၉။ **ကိုယ်ရေးကြုံ သက်လုံကောင်းမြဲ**။ ။ အရေးကြုံလာလျှင် ကြံ့ကြံ့ခံနိုင်စွမ်းရှိတတ်သည်။

"**ကိုယ်ရေးကြုံ**တော့ **သက်လုံကောင်းမြဲ** ဟူသော စကားကဲ့သို့ ကျွန်ုပ်သည် အသက်ဘေးအတွက် ခေတ္တခဏပဲ သက်သာရာရစေတော့ဟူ၍ အောက်မေ့ကာ ရွက်တိုင်အဖျားသို့တက်သည်တွင်...။"[၁၂၈၅]မောင်စွန့်။ ၃၈။

"ယခုကဲ့သို့ အရေးကြီးပေါ်လာသောအခါ **ကိုယ်ရေးကြုံ သက်လုံကောင်း** ဆိုသောစကားကဲ့သို့ သက်လုံကောင်း၍ လာကာ ရုတ်တရက် ဆေးမစားဘဲ အားပြည့်၍ လာသကဲ့သို့ ရှိ၏။" [၁၂၉၃] ဒဂုန်၊ ၁၁၊ ၁၃၁။ ၂၆။

၄၀။ **ကိုယ့်ကိုယ်ကိုယ်ဖော် မသူတော်** ။ ။ ကိုယ့်အကြောင်းကို ကိုယ်တိုင် ဖော်ထုတ်ဝင့်ကြွားသူသည် သူတော်ကောင်း မဟုတ်။ (**ကိုယ့်ဂုဏ်ကိုယ်ဖော် မသူတော်**–ဟူ၍လည်းအဆိုရှိသည်။)

**ကိုယ့်ကိုယ်ကိုယ်ဖော် မသူတော် ခုနစ်ပါး–** စကားပုံလည်းရှု။

"**ကိုယ့်ကိုယ်ကိုယ်ဖော် မသူတော်**ဟုဆိုစမှတ်ရှိသောကြောင့် ကိုယ့်အကြောင်းကို ကိုယ်တိုင်မရေးသားသင့်ဟူ၍ ထင်မှတ်လေ့ရှိသောကြောင့်တည်း။" [၁၂၉၁] မောင်ဝကျေး။ ၆၆။

"မြန်မာလူမျိုးသည် ကိုယ့်အကြောင်းကို ကိုယ်တိုင် ဖော်ကောင်းမလုပ်ချင်သော နိဝါတတရားအရ ကိုယ့်ကိုယ်ကိုယ် နှိမ့်ချဖုံးကွယ်လိုသော လူမျိုးဖြစ်လေသည်။ **ကိုယ့်ဂုဏ်ကိုယ်ဖော် မသူတော်** ဟူသော မြန်မာစကားပုံသည် ဤအဆိုကို ထောက်ခံသော စကားပုံတစ်ခုပင်ဖြစ်ပေသည်။"[၁၃၂၆] ငွေတာရီ၊ ၄၄။ ၂၁၅။

၄၁။ **ကိုယ့်ကိုယ်ကိုယ်ဖျက် ကိုယ်လျှင်ပျက်၊ သံကိုသံဖျက် သံချေးတက်** ။ ။ သံကိုသံချေးကပင် ဖျက်ဆီးတတ်သကဲ့သို့ မိမိကိုယ်ကို မိမိကပင် ဖျက်ဆီးသည်။ (**ကိုယ့်ကိုယ် ကိုယ်ဖျက်၊ သံချေးတက်**–ဟူ၍လည်း အဆိုရှိသည်။)

သံကိုသံဖျက် သံချေးတက်–**စကားပုံလည်းရှု။**

"**ကိုယ့်ကိုယ်ကိုယ်ဖျက်၊ သံချေးတက်**ဆိုတာ အရှိသားကပဲ၊ ကျွန်တော်သည်လိုပြောပေမဲ့ သတိတရားရပြီလို့ဆိုရတော့မလား။" [၁၂၈၄] ဒဂုန်၊ ၄၊ ၃၈။ ၁၁၄။

“**ကိုယ့်ကိုယ်ကိုယ်ဖျက်၊ သံချေးတက်**ဆိုသကဲ့သို့ သူတို့၏ မလိမ္မာမှုသည် သူတို့အကျိုးယုတ်ဖွယ် သက်သက်သာ ဖြစ်ချေသည်။” [၁၃၂၉] ဗမာ။ ၄၁၄။

၄၂။ **ကိုယ့်စေတနာ ကိုယ့်အကျိုးပေး** ။ ။ မိမိစေတနာအတိုင်း ကောင်းလျှင် ကောင်းသည့်အလျောက်၊ မကောင်းလျှင် မကောင်းသည့်အလျောက် အကျိုးပေးတတ်သည်။

“**ကိုယ့်စေတနာ ကိုယ့်အကျိုးပေး** ဆိုတဲ့အတိုင်း စေတနာကောင်းရင် ကောင်းကျိုးရပါတယ်။” [၁၃၃၄] အမေ။ ၂၁၄။

၄၃။ **ကိုယ့်တရား ကိုယ်စီရင်** ။ ။ မိမိပြုခဲ့သော မကောင်းမှု၏ ဆိုးကျိုးကို မိမိပင် ခံစားရမည်။

**ဘယ်သူမပြု မိမိမှု**–နှင့် နှိုင်းယှဉ်။

“အဆုံးကျတော့ **ကိုယ့်တရား ကိုယ်စီရင်**ပြီး သွားကြရမှာပဲ။” [၁၂၉၅] ဒဂုန်၊ ၁၅၈။ ၂၇၁။

၄၄။ **ကိုယ့်ထက်သာ မနာလို**။ ။ လူ့သဘောသည် ကိုယ့်ထက်သာသူကို မနာလို မရှုဆိတ် ဖြစ်တတ်သည်။

“လူဆိုတာဟော့ **ကိုယ့်ထက်သာ မနာလို**ဘူးတဲ့။”[၁၂၇၅]စံပယ်။၈၆။

“အခြားသော မျိုးမတ်တွေက **ကိုယ့်ထက်သာ မနာလို** ဆိုတဲ့ စကားအတိုင်း ပေါ့လေ။” [၁၂၉၂] ကဝိမှန်၊ ၄၊ ၅။ ၂၇၆။

“**ကိုယ့်ထက်သာ မနာလို၊** အကြံတူရန်သူ၊ အလုပ်တူငြူစူဟု ဆိုရိုးရှိ သည့်အတိုင်း...၊” [၁၃၁၄] ကိုယ်ကျင့်။ ၇၅။

၄၅။ **ကိုယ့်လူ သူ့ဘက်သား**။ ။ မိမိဘက်သားဟု ယူဆထားရသူက တစ်ဖက်သား၏ လူ ဖြစ်နေတတ်သည်။

**သူ့လူ ကိုယ့်ဘက်သား**–နှင့် နှိုင်းယှဉ်။

“ကိုယ့်တပ်က ကိုယ့်ပြန်တိုက် ဆိုသကဲ့သို့လည်းကောင်း၊ **ကိုယ့်လူ သူ့ ဘက်သား**ဆိုသကဲ့သို့လည်းကောင်း ဖြစ်နေကြသောကြောင့်...၊” [၁၂၇၅] စာဏကျ၊ ပ။ ၉၆။

"**ကိုယ့်လူ သူ့ဘက်သား** ဆိုတာလို ကိုယ်အားကိုးထားတဲ့သူက ဟိုဘက် ကို ပင်းတဲ့ စကားတွေကို ပြောပြန်ပြီ။" [၁၂၈၂] ဝေဝေ။ ၄၈။

၄၆။ **ကိုယ့်လင်ကလွဲ ဖွဲ့နှင့်ဆန်ကွဲ**။ ။မိမိလင်ယောကျ်ားမှတစ်ပါး အခြားယောကျ်ားများကို တန်ဖိုးမထားပါ။

"ပြဟ္မဒတ်မင်းဆိုးက အတွင်းမရိုးသော စိတ်ထားဖြင့် ချစ်စကား ကြိုက်စကား ပြောဆိုလာပြန်ရာ **ကိုယ့်လင်ကလွဲ ဖွဲ့နှင့်ဆန်ကွဲ**လိုအောက်မေ့လျက်ရှိသော ထိုကိန္နရီမလေးက ပြဟ္မဒတ်မင်း၏အလိုသို့ မလိုက်လျောဘဲ...။" [၁၃၁၄] မင်မြူ။ ၁၈၃။

၄၇။ **ကိုယ့်လိပ်ပြာ ကိုယ်ရှက်** ။ ။သိက္ခာမရှိသော အမှုကိုပြုမိလျှင် ကိုယ့်ကိုယ်ကိုယ် စိတ်မလုံ ဖြစ်တတ်သည်။

"အသံလုပ် တရားဟောရာ၌ **ကိုယ့်လိပ်ပြာ ကိုယ်ရှက်**ဆိုသလို ရှက်ဖွယ် ကောင်းလှ၏။" [၁၃၁၄] ကိုယ်ကျင့်။ ၂၃၄။

၄၈။ **ကိုယ့်ဥမှ ဥထင်** ။ ။ မိမိသားသမီးကိုမှ သားသမီးဟု ထင်သည်။

"မိဘတို့မည်သည် **ကိုယ့်ဥမှ ဥထင်** ဆိုသည့်အတိုင်း သူတို့၏ သားသမီးများကိုသာလျှင် သူများထက် အဆပေါင်းများစွာ ပိုပြီး ချစ်ကြည် မြတ်နိုးရမည်မှာ လောကဓမ္မတာပင် ဖြစ်လေသည်။" [၁၃၁၄] မင်မြူ။ ၂၂၅။

၄၉။ **ကျားမရဲ တစ်၊ လူမရဲ ဟစ်**။ ။ကြောက်လန့်သော ကျားသည် အသံပြုတတ် သကဲ့သို့ သတ္တိမရှိသော သူသည်လည်း အော်ဟစ်ဝါကြွား ကြုံးဝါးတတ်သည်။

"တကယ်ရဲရင့်ခြင်းမျိုးမဟုတ်ဘဲ **ကျားမရဲ တစ်၊ လူမရဲ ဟစ်** သဘောမျိုး လေကျယ်နေလျှင် အသံကြောင့် ဖားသေသလို ဒုက္ခရောက်မည်သာ ဖြစ်သည်။" [၁၃၂၈] ရှေ့သို့၊ ၈၊ ၇။ ၂၃။

၅၀။ **ကျီးဖြူရောက်က စစ်မက်ထ** ။ ။ ကျီးဖြူ ရောက်ရှိပါက စစ် ဖြစ်ပွား၏။

"ရုပ်ဝါသွင်မူ၊ အမြင်တူလည်း၊ ကျီးဖြူဆင်ဖြူ၊ ဂုဏ်မတူဘူး၊ **ကျီးဖြူ ရောက်က၊ စစ်မက်ထ**၏။" [၁၂၆၆] မဃ * ၂၀၁။

၅၁။ **ကျူးလာမိုးသက် ပျိုးကြဲရက်**။ ။ တနင်္လာနေ့၊ ဗုဒ္ဓဟူးနေ့၊ ကြာသပတေးနေ့၊ သောကြာနေ့တို့သည် ပျိုးကြဲရက်များ ဖြစ်သည်။ (ကျူး=တနင်္လာ၊ လာ= ဗုဒ္ဓဟူး၊ မိုး=ကြာသပတေး၊ သက်=သောကြာ။ )

"ထိုသို့ ထွန်ရာ၌ **ကျူးလာမိုးသက် ပျိုးကြဲရက်**ဟူသည့်အတိုင်း တနင်္လာ နေ့၊ ဗုဒ္ဓဟူးနေ့၊ ကြာသပတေးနေ့၊ သောကြာနေ့တို့မှာ ပျိုးကြဲရက်များပင် ဖြစ်သော်လည်း မိမိ၏ စန်းလဂ်အနေ ကောင်း မကောင်းကိုလည်း ကြည့်၍ ကြဲရသည်။" [၁၃၂၉] မြန်ယဉ်လယ်။ ၆၅။

၅၂။ **ကျေးဇူးရှိမှ ကျေးစွပ်သည်**။ ။ အချို့သော လူတို့သည် မိမိ၏ ကောင်းကျိုးကို ဆောင်ရွက်ပေးသော ကျေးဇူးရှင်ကိုမှ ကျေးဇူးကန်းတတ်ကြသည်။

"**ကျေးဇူးရှိမှ ကျေးစွပ်သည်**ဟူသော စကားများကို မြေဝယ်မကျ မှတ်သား ပါတော့ဟု ပြောဆိုပြီးနောက်...၊" [၁၂၈၃] ဒဂုန်၊ ၁၊ ၁၂။ ၈၂။

"ကျေးဇူးတရားကို မသိမမြင်ဘဲ ယုတ်မာချင်တဲ့သူများဟာ **ကျေးဇူးရှိမှ ကျေးစွပ်** ဆိုတာလို ဃင္မမင်းအပေါ်မှာ ကျေးစွပ်တော့တာပေါ့၊" [၁၂၉၆] မဓုရီ၊ တ။ ၁၆၇။

"မိတ်ဆွယ်ပါးတရား ပျက်၍ **ကျေးဇူးရှင်ကို ကျေးစွပ်**သော အကတညု လူယုတ်မာ ဖြစ်သဖြင့် နတ်ကောင်းနတ်မြတ်များ မစောင့်၊" [၁၃၃၄] ဗညား။ ၁၅၀။

ရှေးသောအခါ လူတစ်ယောက်အိမ်၌ ကြက်ဆူပင်သည် ရှိသတည်း။ ထိုအိမ်ရှင်လည်း နွားမွေး၏။ ကြက်ဆူပင်စောင့်နတ်လည်း အိမ်နှင့် နီးသောကြောင့် ငါနေသောသစ်ပင် မပျက်မစီးပေသည်ဟူ၍ ထိုအိမ်ရှင်ကို မစကြည့်ရှုလေသတည်း။ မစကြည့်ရှုသောကြောင့် ထိုအိမ်ရှင်သည် စည်းစိမ်ချမ်းသာ များစွာ တိုးတက် သတည်း။ တစ်ရံရောအခါ အိမ်အနောက်၌ နွားခြံလုပ်သော် ထိုကြက်ဆူပင်ကို ထွင်း၍ တံခါးကျည်း ထည့်လျှိုသတည်း။ ကြက်ဆူပင်စောင့်နတ်လည်း ငါမစ၍ စည်းစိမ်ချမ်းသာ ရှိပါလျက် ငါ့ဗိမာန်ကို ထွင်း၍ တံခါးကျည်း စွပ်ဘိသည်။ ငါကျေးဇူးရှင်ကိုပင် ကျေး(ကျည်း)စွပ်သည်ဟူ၍ ကြက်ဆူပင်စောင့်နတ်ဆိုသော စကားကို လိုက်၍ ယခုတိုင်အောင် ကျေးဇူးရှင်ကို ကျေးစွပ်သည် ဟူ၍ ဆိုရိုးပြု သတည်း။ ။ ထို့ကြောင့် အကြင်သူတို့သည်

ကျေးဇူးပြုသောသူကို ကျေးဇူး တုံ့ဆပ်ရာသည်။ သူ့ကျေးဇူးကို မချေရာ။ ကျေးဇူးချေသောကြောင့် အကျိုးယုတ်လျက် ပျက်စီးဖူးလေသည်။ မြတ်စွာဘုရားလည်း ကတညုတာစ–သူ့ ကျေးဇူး ကို သိရခြင်းသည်လည်းကောင်းဟူ၍ ဟောတော်မူသည်။

**လောကပညတ္တိ။ ၃၄။**

၅၃။ **ကျော့ပူတာသာ ခံနိုင်တယ်၊ နားပူ မခံနိုင်။** ။ အလုပ်ပင်ပန်းမှုဒဏ်ကို ခံနိုင်သော်လည်း နားပူသည့်ဒဏ်ကို မခံနိုင်။

"ဒီလောက် နားပူနားဆူခံနေရတာဟာ ဆိုက်ကားနင်းလို့ ပင်ပန်းရတာထက်တောင်မှ ဆိုးပါသေးတယ်၊ ကျွန်တော်က **ကျော့ပူတာပဲ ခံချင်တယ်၊ နားပူ**တာ **မခံချင်**ဘူး။**"** [၁၃၃၂] မြဝတီ၊ ၁၈၊ ၃။ ၁၀၃။

၅၄။ **ကျောက်နှင့်မြင်း၊ စိုးစဉ်းသိက ထမင်းဝ** ။ ။ကျောက်မျက်ရတနာအကြောင်း၊ မြင်းအကြောင်း အနည်းငယ်သိရုံမျှဖြင့် အသက်မွေးဝမ်းကျောင်း ပြုနိုင်သည်။

" **ကျောက်နှင့်မြင်း၊ စိုးစဉ်းသိက ထမင်းဝ** ရှေးမြန်မာများက ကျောက် အကြောင်း၊ မြင်း၏အကြောင်းကို စိုးစဉ်းမျှ တတ်မြောက်နားလည်ပါက လူတို့ စားသောက်နေထိုင်ရေးကို ဖူလုံလောက်ပါသည်ဟူသော စကားရပ်ကို ထားရှိသည်။" [၁၃၃၃] ကျောက်မျက်ရတနာ။ ၁၄၁။

၅၅။ **ကျပ် စိတ် မိုက်တွင်၊ လုံးကြီးတင်။** ။ ပမာဏအတိုင်းအတာပြသည့် ကျပ်၊ စိတ်၊ မိုက်တို့ကို အတိုသင်္ကေတနည်းဖြင့် ရေးလိုလျှင် ဂဏန်းပေါ်၌ လုံးကြီးတင်၍ ရေးနိုင် သည်။ (သာဓက။ ။ငွေ ၂၅=ငွေနှစ်ဆယ့်ငါးကျပ်။ ဆန် ၃=ဆန်သုံးစိတ်။ ရွှေဖျင် ၁= ရွှေဖျင်တစ်မိုက်။)

၅၆။ **ကြာလေ ကောင်းလေ၊ ဟောင်းလေ သစ်လေ**။ ။ အချို့သော အရာတို့သည် အချိန်ကာလ ကြာမြင့်လာလေလေ ကောင်းလေလေ ဖြစ်ပြီး အချို့သော အရာတို့သည် ဟောင်းနွမ်းလာလေလေ ပို၍ သစ်လွင်လာသည်ဟု ထင်ရလေလေ ဖြစ်သည်။

"**ကြာလေ ကောင်းလေ၊ ဟောင်းလေ သစ်လေ**၊ အိုလေ ပျိုလေဆိုတဲ့ စကားဟာ တဏှာကို တိုက်ရိုက်ပြောဆိုတဲ့ စကား ဖြစ်တယ်လို့ မှတ်ကြပေတော့၊" [၁၂၇၈] သာရီ၊ ပ။ ၁၂၃။

“ဒဂုန်မဂ္ဂဇင်းကြီးကတော့ အသက်ကြီးပေတဲ့ ပျက်စီးယိုယွင်းတဲ့ အိုမင်းမှု ဇရာကွေသဖြင့် **ကြာလေ ကောင်းလေ၊ ဟောင်းလေ သစ်လေ** ဖြစ်နေတော့ တာပဲ၊” [၁၂၉၂] ဒဂုန်၊ ၁၀၊ ၁၂၁။ ၂၅၉။

“လောကုတ္တရာချမ်းသာကတော့ **ကြာကောင်း ဟောင်းသစ်**ဆိုတဲ့ စကား လို ဘယ်တော့မှ မူမပြောင်းဘဲ အင်မတန်မှ ကောင်းတာကလား။” [၁၂၉၆] မဇ္ဈိမ၊ ဒု။ ၉၄။

၅၇။ **ကြားကလေသွေး ဝေးတယ်ထင်**။ ။ချစ်သူတို့သဘာဝ နှစ်ကိုယ်အကြား လေပြည်သွေးလောက်ရုံမျှ ကွာခြားသည်ကိုပင် ဝေးကွာလှသည်ဟု ထင်တတ်သည်။

“အဟုတ် ချစ်ပြီဆိုတော့ **ကြားကလေသွေး ဝေးတယ်ထင်**တတ်တယ် တဲ့၊ အကြောင်းလက်တွေ့မဟုတ်ခင်တုန်းကတော့ နည်းနည်းမှ မယုံမိဘူး။” [၁၃၀၃] တိုးတက်ရေး၊ ၈၆။ ၇၃။

၅၈။ **ကြီးလျှင်မှီ၊ ငယ်လျှင်ချီ**။ ။ အိမ်ထောင်ပြုကြရာတွင် မိမိ၏အိမ်ထောင်ဖက်သည် မိမိထက် ကြီးသူဖြစ်လျှင် မိမိက မှီခိုအားထားရသည်။ မိမိအောက် ငယ်သူဖြစ်ပါ မူကား မိမိက ကြင်နာယုယ ပြုစုစောင့်ရှောက်ရသည်။

“ထို့ပြင် ရှေးလူတို့စကားများကလည်း ရှိပေတယ်။ **ကြီးလျှင်**လည်း**မှီ**ရမှာ၊ **ငယ်လျှင်**လည်း**ချီ**ရမှာတဲ့၊ သို့လိုအကြောင်းကြောင့် ယူမယ်ဆို ယူသင့်ပါပေတယ်။” [၁၂၆၈] နော၊ ပ။ ၄၄။

“**ကြီးမှီ၊ ငယ်ချီ** ဆိုတာ မင်းက ငယ်လျှင် သူက ကြီးလို့မှီရမှာ ပြောတာ ကွဲ့။” [၁၂၉၅] ကဝိတံခွန်၊ ၂၊ ၁၄။ ၁၁၀။

“ **ကြီးလျှင်မှီ ငယ်ချီ**ရ၊ ရွယ်ညီမှုပြုစေ၊ ဘယ်ဆီမှ သမုဆွေငယ်၊ ဥပဒေ မရေး၊ အကျိုးနှင့်အပြစ်မျှော်လျှင်၊ အချစ်တော်ပေါင်းဆုံကြသေး။” [၁၂၉၇] ဒဂုန်၊ ၁၈၆။ ၁၂၅။

၅၉။ **ကြီးသူကို ရိုသေ၊ ရွယ်တူကို လေးစား၊ ငယ်သူကို သနား**။ ။ မိမိထက် အသက်အရွယ်ကြီးသူကို ရိုသေရမည်။ ရွယ်တူသူကို လေးစားရမည်။ ငယ်သူကို သနားကြင်နာရမည်။

"**အောက်ကိုသနား၊ တန်းတူအားမူ၊ မြှောက်စားအမျှ၊ မယုတ်ချနှင့်၊ ထက်ကသူမှာ၊ ရိုသေရာ၏။**" [၁၂၆၆] မဃ*၁၉၇။

"**ကြီးသူကို ရိုသေ၊ ရွယ်တူကို လေးစား၊ ငယ်သူကို သနား။**" [၁၃၁၅] ရွှေနီ။ ၉။

၆၀။ **ကြီးသည့်အမှု ငယ်စေ၊ ငယ်သည့်အမှု ပလပ်စေ။** ။ ကြီးသော အမှုကို ငယ်သော အမှုဖြစ်အောင်၊ ငယ်သော အမှုကို ပပျောက်ကျေအေးအောင် ဆောင်ရွက်အပ် သည်။

"လူအများကို၊ သနားမျှော်ရှု၊ သားတူပြုလျက်၊ **ကြီးမှုမကျယ်၊ ငယ်မှုပျောက်ပေ၊** သာကြည်ထွေတိ၊" [၈၇၉] ဂါထာ * ၁၆။

"နယ်ပြည်ထောင်ကို ငြိမ်အောင်ပြု၊ **ကြီးသောအမှု**ကို **ငယ်စေ၊ ငယ်သော အမှု**ကို **ပလပ်**ပြေငြိမ်း**စေ၊**" [၁၁၈၁] ဟိန်။ ၅၈။

"**ကြီးစွာအမှု၊ ငယ်နုပါကြောင်း၊ ငယ်ငေါင်းသမျှ၊ ပျောက်ကြလေစေ၊**" [၁၁၈၇] သီလဝ * ၅၃။

၆၁။ **ကြံသာ အစဉ်ချိုသည်၊ လူမှာ အစဉ်မချို။** ။ ကြံသာလျှင် အစဉ်အမြဲ ချိုတတ်သည်။ လူတို့၏ စိတ်သဘောထားကား အစဉ်အမြဲ ကောင်းနေလိမ့်မည် မဟုတ်ပေ။

"မိတ်ဆွေအဖြစ်မှ ရွေ့လျောပြီး ငြိုးသူရန်ဘက်သဘောသို့ ရောက်ချင်ရောက်သွားတတ်သေးတယ်။ **ကြံသာ အစဉ်ချိုသည်၊ လူမှာ အစဉ်မချို**ဆိုတဲ့ စကားပုံဟာလည်း...ဖော်ပြခဲ့တဲ့ နီတိဂါထာကို ရည်ညွှန်း၍ ဆိုခဲ့ခြင်း ဖြစ်ပေသပေါ့။" [၁၂၈၈] သူရ၊ ပ။ ၇၉။

"**ကြံသာလျှင် အစဉ်ချိုမည်၊** ပုထုဇဉ်သာမန်**လူ**စား မိန်းကလေးတစ်ဦး၏ စိတ်**မှာ** ကြံကဲ့သို့ **အစဉ်ချိုနိုင်မည်မဟုတ်၊**" [၁၃၀၃] မြဝင်း။ ၂၅၉။

၆၂။ **ကြိုးကြာ ရေမသောက်။** ။ ကြိုးကြာငှက်သည် ရေသောက်လေ့ မရှိပေ။

"**ကြိုးကြာမျိုးလျောက်၊ ရေမသောက်**လျက်၊" [၁၁၈၉] ကုသ * ၂၉၃။

"ရှေးသူဟောင်းတို့လည်း **ကြိုးကြာ ရေမသောက်၊** ဗျိုင်းအောက်မှာ လင်မနေ၊ သားတွေကများဟူ၍ သားငယ်တို့ကို သီချင်းပြု၍ သင်စကြကုန်သည်။" [၁၁၉၂] ဝေါလီ။ ၂၁၁။

၆၃။ **ကြိုးစားက ဘုရားဖြစ်**။ ။ ကြိုးစားအားထုတ်လျှင် ဘုရားအဖြစ်ကိုပင် ရနိုင်သည်။

"တိုးတက်ရေးမဂ္ဂဇင်းတွင် စာရွက်တိုင်း စာရွက်တိုင်း၌ ပါလာသော **ကြိုးစားက ဘုရားဖြစ်**နိုင်၏ဟူသော စကား ကျွန်တော်၏အသည်းတွင် သံမှို နှင့်စွဲလျက်ရှိလေ၏။" [၁၂၉၇] တိုးတက်ရေး၊ ၂၀။ ၁၉။

"မြန်မာလူမျိုးများ ပြောလေ့ပြောထရှိသော စကားမှာလည်း **ကြိုးစားက ဘုရားဖြစ်**ဟု လူတိုင်းလိုလိုပင် သိရှိကြပြီး၊" [၁၂၉၈] မြန်မာ့ဟိတ၊ ၁၊ ၂၇။ ၁၅။

၆၄။ **ကြက်ကောင်း ကြိုးမကွာ**။ ။ တိုက်ကြက်ကောင်းကို ကြိုးနှင့် အမြဲမကွာ ချည်နှောင်စောင့်ရှောက်ထားရသည်။

**ကြက်ကောင်း ကြိုးမကွာ**–စကားပုံလည်းရှု။

"ကြက်ဖတစ်ကောင် တိုက်တော့မည်ဆိုသောအခါ၌. . .လူမကြည့်နိုင် သောအခါ၌ ခြင်းလှောင်ထားရသည်၊ သို့မဟုတ် ကြိုးချည်ထားရသည်။ ထို့ကြောင့် **ကြက်ကောင်း ကြိုးမကွာ**ဆိုသောစကား ပေါ်ခဲ့သည်။" [၁၃၄၀] ကြက်ငှီ။ ၃၇။

၆၅။ **ကြက်ကောင်းလျှင် တစ်ဒယ်၊ ချိုးကောင်းလျှင် တစ်လွယ်၊ ခါကောင်းလျှင် တစ်ထမ်း**။ ။ တည်ကြက်ကောင်းလျှင် တစ်ဒယ်စာမျှသာ ရနိုင်သည်။ တည်ချိုး ကောင်းလျှင်လည်း တစ်လွယ်စာမျှသာ ရနိုင်သည်။ တည်ခါကောင်းလျှင်မူ တစ်ထမ်း တစ်ပိုး များပြားစွာ ရနိုင်သည်။

"**ကြက်ကောင်းလျှင် တစ်ဒယ်၊ ချိုးကောင်းလျှင် တစ်လွယ်၊ ခါကောင်းလျှင် တစ်ထမ်း**ဟုပင် တည်ကြက်၊ တည်ချိုး၊ တည်ခါများအတွက် စာဆိုရှိပါသည်။" [၁၃၂၈] မြဝတီ၊ ၁၄၊ ၁၀။ ၃၇။

၆၆။ **ကြက်မသွား မြှားပါ၊ မိန်းမသွား စကားပါ**။ ။ မသွားသင့်သည့်အခါ၊ မသွားသင့်သည့်နေရာသို့ သွားမိသော ကြက်များကိုယ်တွင် သူတစ်ပါးပစ်လိုက်သည့် မြှား စိုက်လျက် ပါလာတတ်သကဲ့သို့ မသွားသင့်သည့်အခါ၊ မသွားသင့်သည့်နေရာသို့ သွားမိသော မိန်းမများတွင်လည်း စကားအရှုပ်အထွေး ပါလာတတ်သည်။

"အခါအခွင့်၊ ကြောင်းမသင့်က၊ တဖျင့်တပါး၊ လွတ်ရှောင်ရှား၍၊ မသွားကြရာ၊ သွားမိပါသော်၊ **ကြက်မှာကားမြား၊ စကားမိန်းမ၊ ပါ**တတ်လှ ရှင့်၊ ရှေးကဆရာ၊ အပြစ်မှာ၏။" [၁၃၀၀–ခန့်] ဓီတရော * ၁၁။

"အဖသူဌေးကြီး ဓနဥ္စယက သင်ပြပြောဆိုရာတွင် **ကြက်မသွား မြားပါ၊ မိန်းမသွား စကားပါ** လာသည့်ရှေးရိုး အတုခိုးလျက် အကျိုးမရှိသောစကား ပြောကြား၍လည်း သူတစ်ပါးတို့၏ အပြင်မီးကို အိမ်ထဲသို့ မသွင်းနှင့်ဟု ဆို ဆုံးမခဲ့ဖူးလေသည်။" [၁၃၄၀] မြဝတီ၊ ၂၆၊ ၅။ ၉၆။

၆၇။ **ကြက်မှာ အရိုး၊ လူမှာ အမျိုး**။ ။ကြက်သည် အခွပ်ကောင်းခြင်း မကောင်း ခြင်း၊ သတ္တိရှိခြင်း မရှိခြင်းစသည်တို့၌ မျိုးရိုးလိုက်သကဲ့သို့ လူတစ်ဦး၏အကျင့်စရိုက် သည်လည်း မျိုးရိုးလိုက်တတ်သည်။

"မိကောင်းဖခင် သားသမီးမှန်က ကလိန်းကလက် မရှိ၊ ငှက်ပျောပင် စိုက် မိလိုက်ဖပါဆိုဘိသကဲ့သို့လည်းကောင်း၊ **ကြက်မှာ အရိုး၊ လူမှာ အမျိုး** ဆိုဘိ သကဲ့သို့လည်းကောင်း...၊" [၁၂၆၇] စကား၊ ပ။ ၁၂၆။

"**လူ အမျိုး၊ ကြက် အရိုး** ဆိုစကားရှိသည်။ တိုက်ကြက်များမှာ မိဘ မျိုးရိုး စစ်မှန်ဖို့ ကောင်းဖို့ အရေးကြီးလှသည်။" [၁၃၄၀] ကြက်ငို။ ၁၆။

၆၈။ **ကြက်ဥအယောင်၊ တိမ်တောင်သဖွယ်၊ မင်းရေးကျယ်**။ ။ ကြက်ဥအတွင်းမှ သန္ဓေသား၏ ပေါက်လာလျှင် ဖြစ်မည့် အမွေးအရောင်ကိုလည်းကောင်း၊ တိမ်တောင် တိမ်တိုက် မည်သည့်အသွင်သဏ္ဌာန် ဖြစ်လာမည်ကိုလည်းကောင်း ခန့်မှန်းရန် မလွယ်သကဲ့သို့ တိုင်းရေးပြည်ရေးမှာလည်း မည်သို့ ဖြစ်လာမည်ကို ခန့်မှန်းရန်မလွယ်ပေ။

**တိမ်တောင်သဖွယ် မင်းရေးကျယ်**–လည်းရှု။

"ပင်လုံးကျွတ်လျှင်၊ နီတွတ်လှတင့်၊ အပွင့်ရဲရဲ၊ ပေါက်ထဲကျေးနေ၊ သိခဲထွေဖြင့်၊ **မိုးခြေတိမ်သွင်၊ ဥတွင်ကြက်ငယ်၊** လျှပ်ရောင်ဝယ်၌၊ ခြည်သွယ်သေးဖွဲ၊ ပုလဲလုံးညီ၊ သီသော်ခဲ၏၊ **နက်နဲဆွေးနွေး ပြည်တဲရေးကို၊**" [၈၅၀ –ခန့်] ပကိဏ်။ ၄။

"**ပြည်တဲအရေး၊** ကျေးနှင့်ပေါက်ပင်၊ ချည်မျှင်ပင့်ကူ၊ **နိုင်းတူကြက်ဥ၊ တိမ်အထုကို၊ လွယ်မှုသိနိုင်၊** အပြီးတိုင်သား၊" [၈၇၀–ခန့်] ဗန္ဓ။ ၇၇။

